# မာတိကာ

# စကားချီး




စာရေးဆရာ ဂျိဖော် ရေးသားခဲ့တဲ့ ((ဟာမန်ဟက်(စ်)၏ ဒဿန သို့မဟုတ် သိဒ္ဓတ္ထကို လေ့လာခြင်း)) ဆိုတဲ့ဝေဖန်ချက် ကလေးတစ်ခု ပြန်ဖတ်ရတယ်။ ဖတ်ဖူးတာတော့ကြာပါပြီ ၁၉၉၅ ခုနှစ်ဝန်းကျင်ကပါ။ အဲဒီ အချိန်ကတော့ စာပေ လွတ်လပ်ခွင့် မရှိသေးတော့ ပြန်လည်တုံ့ပြန်ရေးသားမှုတွေ မလုပ်နိုင်ခဲ့ပါဘူး။ ဘာလို့လဲဆိုတော့ ဂျိဖော်က သိဒ္ဓတ္ထ ကို ထေရဝါဒဗုဒ္ဓဘာသာ အထိုင်နဲ့ဝေဖန်ထားလို့ ပါပဲ။ သူ က ဘုရားနဲ့တွေ့တာတောင် သာဝကမဖြစ်တဲ့ သိဒ္ဓတ္ထဟာ ဗုဒ္ဓဘာသာ နဲ့ မတူတဲ့ ဘဝအမြင်ကို ဖော်ပြရုံမျှသာဖြစ်တယ် သိဒ္ဓတ္ထဝတ္ထု က ဖော်ပြတဲ့ လောက အမြင်ဟာ ထေရဝါဒ ဗုဒ္ဓဘာသာဝင်တွေ အတွက်တော့ အမှောင်ထဲက မိစ္ဆာဒိဋ္ဌိအယူဝါဒ တစ်ခုမျှသာဖြစ်တယ်လို့ နှိမ်ချသုံးသပ်ထားပါတယ်။

လွန်ခဲ့သော အနှစ် ၂၀ လောက်ကဖြစ်လို့ ဆရာဂျိဖော်ဟာ အဲဒီဝေဖန်ချက်ပါအယူအဆတွေ ကို ဆက်လက်ကိုင်စွဲထား ခြင်း ရှိမရှိတော့ မသိရပါဘူး။ ဂျိဖော်ကို အပြင်မှာ လူချင်းမရင်းနှီးပါဘူး။ ဒါပေမဲ့ ဖေ့စ်ဘုတ်က လက်လှမ်းမီတာမို့ သူ့ဝေါလ်ပေါ်က ပို့စ်မှာ ဆရာ့အယူအဆတွေ ကို မနှစ်သက်တဲ့ အကြောင်း လက်မခံတဲ့အကြောင်း နဲ့ လေ့လာချက်တစ်ခု သပ်သပ်ရေးဖို့ ဆန္ဒရှိတဲ့ အကြောင်းတွေ မန့် လိုက်ပါတယ်။ ဆရာကလည်း လိုလိုလားလားပဲ ကျွန်တော်ရေးမဲ့ လေ့လာချက်ဆောင်းပါးတွေ ကို ဖတ်ချင်တယ်လို့ပြောပါတယ်။ ဒီအတွက် ဆရာဂျိဖော်ကို အထူးကျေးဇူးတင်ပါတယ်။ ဆရာ့ ရဲ့ ပြည့်ဝမှု နဲ့ စာပေချစ်စိတ်ကိုလေးစားမိပါတယ်။

တကယ်တော့ ရသစာပေလက်ရာတစ်ခုကို ဘာသာတရားတစ်ခုခု ရဲ့ ပေတံ နဲ့ တိုင်းကြည့်ရင်တော့ ကိုယ်နဲ့ မတူ မိစ္ဆာအယူဆိုတဲ့ နိဂုံးကို ရောက်ရမှာ မလွဲပါဘူး။ ယောနသံဖင်ရော် ကို ထေရဝါဒ ပေတံနဲ့ တိုင်းရင် လည်း အမှောင်ထဲက မိစ္ဆာဒိဋ္ဌိအယူဝါဒ တစ်ခုမျှသာဖြစ်တယ်လို့သာ ဆိုရမှာ ဖြစ်သလို စစ် နှင့် ငြိမ်းချမ်းရေးဝတ္ထုကြီး က တော်လ်စတွိုင်း ရဲ့ သမိုင်းအမြင် ကို ထေရဝါဒ ဘာသာရေး ရှုထောင့်ကကြည့်ရင် အမှောင်ထဲက မိစ္ဆာဒိဋ္ဌိအယူဝါဒ တစ်ခုမျှသာဖြစ်တယ်လို့ ဆိုနိုင်မှာ ဖြစ်ပါတယ်။ ဒီနေရာမှာ သတိထားဖို့ က ရသစာရေးသူဟာ ဝါဒဖြန့်ချိနေသူ တရားဟောနေသူ မဟုတ်ပဲ ရသ အတွေ့အကြုံကနေ တဆင့် သူ့ရဲ့ လောကအမြင်ကို လှစ်ဟပြနေတာပဲ ဖြစ်တယ်ဆိုတာပါပဲ။

စာရေးသူ အနုပညာရှင် ရဲ့ ကိုယ်ပိုင် ဘာသာရေးယုံကြည်မှုတွေ နဲ့ လောကအမြင်တွေဟာ စာပေလက်ရာရဲ့ ဒဿနအပိုင်းအဖြစ် ပေါ်လွင်နေမှာ သဘာဝပဲ ဖြစ်ပါတယ်။ သိဒ္ဓတ္ထဝတ္ထုကိုရေးသူ ဟက်စ်ဟာ ဥပနိသျှဒ်=ေဝဒန္တ ဇင်ဗုဒ္ဓဘာသာ စတဲ့ အရှေ့တိုင်း ဘာသာတရားတွေ နဲ့ ပလေတို ကန့် ရှိုပင်ဟောင်ဝါ နိချ စတဲ့ အနောက်တိုင်း ဒဿနဗေဒပညာရှင်တွေ ရဲ့ အမြင်တွေ လွှမ်းမိုးခံခဲ့ရသူ ဖြစ်လို့ ဟက်စ် ရဲ့ လောကအမြင်ဟာ ထေရဝါဒလောကအမြင် မဟုတ်ပါဘူး။ မတူတဲ့အတွက် ငါနဲ့မတူ မိစ္ဆာအယူ ဆိုတဲ့ အကဲဖြတ်ချက်ကတော့ ညံ့လွန်းတဲ့ သုံးသပ်ချက် ဖြစ်တယ်လို့ပဲ ပြောပါရစေ။

တကယ်တော့ ဘာသာရေးလောကအမြင်တွေ မှာနောက်ဆုံးပန်းတိုင်ကို သွားတဲ့လမ်းတွေ ဟာ အဓိက အုပ်စု နှစ်ခု ရှိပါတယ်။ တစ်ခုကတော့ ဘဝကို ငြင်းပယ်တဲ့လမ်း။ Via Negativa လို့လဲ ခေါ်ဆိုကြတယ်။ အရာအားလုံးကို ငြင်းပယ်လို့ နောက်ဆုံးမှာ ငြင်းလို့မရကျန်ရစ်ခဲ့တဲ့ သဘာဝဟာ ပန်းတိုင်ပဲ ဖြစ်တယ်လို့ ယူဆတဲ့ လမ်းပါ။ ကေဝလဒွေတ-ေဝဒန္တ၊ ထေရဝါဒဗုဒ္ဓဘာသာ၊ ဂျိန်းဘာသာ၊ တပကျင့်တဲ့ ခရစ်ယာန်လမ်းစဉ်တွေ ဟာ ဒီလို လမ်းတွေ ဖြစ်တယ်။

နောက်လမ်းတစ်ခု ကတော့ ဘဝ ကို လက်ခံတဲ့လမ်း။ Via Positiva လို့လဲ ခေါ်ကြတယ်။ အရာအားလုံးကို ထွေးပွေ့လက်ခံလို့ မိမိနဲ့ အရှိဓမ္မတရားတစ်ခုလုံးဟာ အတူတူပဲ ဖြစ်တယ်လို့ ယူဆတဲ့ လမ်းပါ။ ရှိဗ-အဒွေတ၊ မဟာယာနဗုဒ္ဓဘာသာ၊ ကဗ္ဗလာ နဲ့ ဆူဖီလမ်းစဉ် တောက်ဝါဒလမ်းစဉ်တွေ ဟာ ဒီလိုလမ်းတွေ ဖြစ်ပါတယ်။ ဟက်စ် ရဲ့သိဒ္ဓတ္ထ ဟာ ဒုတိယလမ်းမ ကနေ တရားသိမြင်သွားတဲ့သူ ဖြစ်ပါတယ်။ ဒါလေးကို အရင်နားလည်ထားဖို့ လိုအပ်တယ်။

ပထမလမ်း က အနန္တဓမ္မ/ INFINITY ကိုတွေ့တယ်။ ဒုတိယလမ်းက သဗ္ဗတ္ထဓမ္မ/ TOTALITY ကိုတွေ့တယ်။ ဒီ နှစ်ခုစလုံးဟာ အဆုံးသတ်မှာတော့ ဒင်္ဂါးတစ်ချပ်ရဲ့ မျက်နှာစာ နှစ်ဘက်လိုပဲ ကျောချင်းကပ်နေတယ်ဆိုတာကို သိရမှာ ဖြစ်ပါတယ်။ လူသားတိုင်းဟာ ကိုယ်သန်ရာလမ်းကနေ ကိုယ်သွားကြတာပဲဖြစ်တယ်။ သိဒ္ဓတ္ထဟာ ဒုတိယလမ်း ကို ရွေးချယ်ခဲ့သူဖြစ်တယ်။

တကယ်တော့ သိဒ္ဓတ္ထဝတ္ထုမှာ ပြောစရာတွေ ဆွေးနွေးစရာတွေ လင်းပြစရာတွေ က အစမှ အဆုံးအထိ နေရာမလပ်ရှိနေပါတယ်။

ဆောင်းပါးငယ်လေးတစ်ပုဒ်လောက်နဲ့ မလုံလောက်ပါဘူး။ ဝတ္ထုတစ်ခုလုံး ကို အိန္ဒိယကဗျာလို့ နာမည်ပေးထားပေမဲ့ ကျောရိုးတည်ဆောက်မှု ဟာ ဗုဒ္ဓရဲ့ ဖြစ်တော်စဉ်တွေ ကို အခြေပြုထားတာ ကို မြင်သာပါတယ်။ Hero Archetype ကို အခြေခံကျောရိုးအနေနဲ့တည်ဆောက်ထားတယ်။ သာမန်လူရိုးစင်းတဲ့ဘဝမှာ နေခဲ့တယ်= အသိဉာဏ်တစ်ခု လင်းလက်လို့ လောကီဘဝကို စွန့်ခွာတယ် = ဆရာအမျိုးမျိုးနဲ့ဆုံတွေ့ရပေမဲ့ တရားမရခဲ့ဘူး= အစွန်းတရားအမျိုးမျိုး ကို ဖြတ်သန်းရတယ်= ကိုယ်ပိုင်ဘဝအတွေ့အကြုံတွေ ကနေတစ်ဆင့် ဘဝအပေါ်နားလည်မှု ရလာတယ်= နောက်ဆုံးငြိမ်းချမ်းရေးရတယ်= ကိုယ်သိတဲ့ တရားဓမ္မကို ကိုယ့်မိတ်ဆွေတွေ ကို ပြန်လည် ဆက်သွယ် ပြောပြတယ်= စတဲ့ ကျောရိုးတည်ဆောက်မှု ကို တွေ့ရမှာ ဖြစ်ပါတယ်။ ဒီအပေါ်မှာ အခြေခံလို့ ဟက်စ် ဟာ သိဒ္ဓတ္ထ ကို ဖန်တီးခဲ့တယ်= ဗုဒ္ဓနဲ့ဆင်တူတဲ့ ဗုဒ္ဓနဲ့လည်းမတူတဲ့ မူကွဲသိဒ္ဓတ္ထအဖြစ် ပုံဖော်ခဲ့တယ်။

ဗုဒ္ဓက ကာမဘောထဲကနေ တောထွက်ပြီး တပ ကျင့်တယ်= နောက်ဆုံးမှာ ဒီ အစွန်းနှစ်ခုလုံးကို လွန်သူဖြစ်သွားတယ်။ ဝတ္ထုထဲက သိဒ္ဓတ္ထကတော့ တပကျင့်သူ အဖြစ်ကနေ ကာမဘောထဲ ကို ကျရောက်ခဲ့တယ်= သူလည်း နောက်ဆုံးမှာ လွန်မြောက်သူ ငြိမ်းအေးသူ ဖြစ်ခဲ့ရတယ် သူတို့ နှစ်ယောက်ရဲ့ ဆုံမှတ်တွေဟာအတူတူပဲ လို့ စာရေးသူ က အရိပ်အမြွက်ပြခဲ့ပါတယ်။ သူတို့ ဘဝဖြတ်သန်းမှုတွေ အမြင်တွေ က မတူကြပေမဲ့ သူတို့ အပြီးတွေ က ထပ်တူ။

ဒီတော့ ဆရာဂျိုဇော်ရဲ့ ဆောင်းပါးကို သုံးသပ်ဝေဖန်တာထက် ပိုလို့ အကျိုးဖြစ်စေတာကတော့ သိဒ္ဓတ္ထဝတ္ထု ကို တစ်ဆင့်ချင်း တစ်လွှာချင်း အနက်ဖွင့်ထုတ်ပြီးေဝဖန်ကြည့်ရင်တော့ စာဖတ်သူတွေ အတွက်လည်း အကျိုးပိုရှိမယ်လို့မြင်မိတယ်။ သိဒ္ဓတ္ထဟာ bildungsroman လို့ခေါ်တဲ့ စိတ်ဝိညာဉ်ဆိုင်ရာ တိုးတက်လင်းပွင့်မှု ကို ဘဝခရီးအလိုက်ဖော်ပြတဲ့ ဂျာမန်ဝတ္ထု အမျိုးအစားထဲမှာ ပါဝင်ပါတယ်= ဒါဟာလည်း ဗုဒ္ဓဝင်တွေ ရဲ့ တည်ဆောက်ပုံမျိုးပဲ လို့ ယူဆနိုင်ပါတယ်။

ဘာမှမသိသူသာမန်လူဘဝကနေ သိမြင်လွတ်မြောက်သွားသူအဖြစ် ပြောင်းလဲပုံကို ဖော်ပြတဲ့ ပုံပြတရားဝတ္ထုတွေပါ။ ဒီထဲမှာ လူတိုင်းနဲ့ သက်ဆိုင်နေတဲ့ ကိစ္စတွေ ပါနေလို့ သိဒ္ဓတ္ထ ရဲ့ ပြောင်းလဲလာတဲ့ အဆင့်တိုင်းကို လေ့လာကြည့်ရင် စာဖတ်သူတွေ အတွက်လည်း ကိုယ့်အတွင်းအဇ္ဈတ္တကို မှန်ထဲပြန်ကြည့်နေရသလို နိုးကြားမှုတစ်ခုခု ဖြစ်နိုင်ကောင်းရဲ့လို့ တွေးဆမိရင်း သိဒ္ဓတ္ထအဖွင့် ကို အကျဉ်းလောက်ရေးကြည့်ဖို့ စိတ်ကူး ဖြစ်တည်ခဲ့ရပါတော့တယ်။

**Lynn Htet Swe**

2018 September 14 at 10:29 PM

## စာညွှန်း




ငယ်ငယ်တုန်းက အကြိမ်ကြိမ်ဖတ်ဖြစ်တဲ့ ဘာသာပြန်စာအုပ်ဆိုတာ ဆရာပါရဂူဘာသာပြန်တဲ့ ဟာမန်းဟက်စ် ရဲ့ သိဒ္ဓတ္ထ ဝတ္ထု ပါပဲ။ တစ်ချို့ စာပိုဒ်တွေ ကို အလွတ်ရနေတဲ့ အထိ စွဲခဲ့တာ။

အဲဒီထဲမှာ သူငယ်ချင်း ဂေါဝိန္ဒနဲ့ အတူ သမဏတွေဆီမှာ သစ္စာတရား နဲ့ လွတ်မြောက်မှု ကို ရှာဖွေနေခဲ့တဲ့ သိဒ္ဓတ္ထ ဟာ ဗုဒ္ဓ နဲ့ တွေ့တာတောင်မှ ဗုဒ္ဓရဲ့ သာဝက မဖြစ်ဘူး။ သူ့ အသိဉာဏ်က သိပ်ထက်မြက်နေတော့ ဗုဒ္ဓ ကတောင် သူ ထောက်ပြတာ ကို မရှင်းပြခဲ့ဘူး။ အပြုံးနဲ့သာ တုန့်ပြန်ခဲ့တယ်။ သိဒ္ဓတ္ထ မင်း သိပ်ပြီး လိမ္မာပါးနပ်လွန်းခြင်း ကိုလည်း ဂရုစိုက်ဦး= လို့ မှာတယ်။

သိဒ္ဓတ္ထ ရဲ့ ေဝဖန်ချက်က ဗုဒ္ဓရဲ့ ကြောင်းကျိုးဆက်သွယ်မှု သဘောတရား= ပဋိစ္စသမုပ္ပါဒ အပေါ်ဝေဖန်တာဖြစ်တယ်။ အရာခပ်သိမ်းဟာ ကြောင်းကျိုးဆက်နွှယ်နေမယ်ဆိုရင် အရာအားလုံးဟာ ပြဋ္ဌာန်းထားပြီးသားဖြစ်နေလို့ ဒီလို အပိတ်စနစ်တစ်ခုထဲကနေ လွတ်မြောက်ရာလမ်းဆိုတာ မရှိနိုင်ဘူး လို့ သိဒ္ဓတ္ထ ကေဝဖန်တယ်။ ဒါကြောင့် ဗုဒ္ဓရဲ့ ပဋိစ္စသမုပ္ပါဒဝါဒ နဲ့ နိဗ္ဗာန်ဝါဒတွေဟာ အချင်းချင်း ပဋိပက္ခ ဖြစ်နေတယ်လို့ သူ ကထောက်ပြခဲ့တာပါ။

( တကယ်တော့ ဗုဒ္ဓ ရဲ့ အမြင်ဟာ Compatiblism တစ်မျိုး ဖြစ်တယ်= ကြောင်းကျိုးဆက်နွယ်မှုတွေ ရဲ့ အတွင်းမှာကိုပဲ ကြောင်းကျိုးချုပ်ပြတ်မှု သဘောလည်း တစ်ပြိုင်တည်းရှိနေတယ်ဆိုတဲ့ အယူအဆ မျိုး ဖြစ်တယ်။ ဒီ သဘောကိုတော့ စာရေးဆရာ က ဆွေးနွေးထားတာ မတွေ့ရပါဘူး)

ဗုဒ္ဓ ကို စွန့်ခွာခဲ့တဲ့ သိဒ္ဓတ္ထဟာ နောက်ထပ်ဆရာတွေ နဲ့ ထပ်တွေ့ရတယ်။ ကမလာဆိုတဲ့ ကချေသည် က သူ့ ကို ကာမဂုဏ်တွေ အကြောင်းသင်ကြားပေးသလို ကုန်သည်ကာမဆွာမိ ကလည်း ငွေရှာနည်း ကို သင်ပြပေးတယ်။ လောကကို ငြီးငွေ့လို့ ထပ်မံစွန့်ခွာလာတဲ့ သိဒ္ဓတ္ထ ဟာ လှေထိုးသားကြီး ဝါသုဒေဝနဲ့ တွေ့တဲ့ အခါ လှေထိုးသားကြီးက မြစ်ကို ဥပမာပြပြီး အရာခပ်သိမ်းရဲ့ ပေါင်းစည်းခြင်းသဘောကို သင်ကြားပေးပြန်တယ်= မြစ်ကြီးကိုယ်တိုင် က သိဒ္ဓတ္ထ ရဲ့ ဆရာ ဖြစ်ခဲ့တယ်။

လောကမာယာကို နားလည်သွားပေမဲ့ သူ့ရဲ့ ကြွင်းကျန်နေတဲ့ အနှောင်အဖွဲ့တွေ ကို လွန်မြောက်စေသူကတော့ သူနဲ့ ကမလာနဲ့ ရခဲ့တဲ့ သူ့သားလေး ပဲ ဖြစ်တယ်။ သား က သူ့ ကို စွန့်ထားခဲ့တဲ့ အခါမှာ နောက်ဆုံးခံစားရတဲ့ ပရိဒေဝသောကမီး နဲ့ သိဒ္ဓတ္ထ ဟာ သူရှာနေတဲ့ အရာရဲ့ လမ်းဆုံးကို ရောက်ရှိခဲ့ရတာ။ အရာအားလုံးကို အတိုင်းတိုင်းလက်ခံခြင်း အတိုင်းတိုင်း ချစ်ခြင်းသည်သာ လွတ်မြောက်ရာ ဖြစ်တယ်ဆိုတဲ့ နောက်ဆုံး အမှန်တရားကို သူရရှိခဲ့တယ်။ နောက်ဆုံးပိုင်းကတော့ ဒီတရားကို သူ့မိတ်ဆွေ ဂေါဝိန္ဒ ကို ပြန်ပြောပြတဲ့ အခန်းပါ။ သိဒ္ဓတ္ထဟာ ဗုဒ္ဓနည်းတူ လွတ်မြောက်သွားပြီ ဆိုတာ ကို သူ့သူငယ်ချင်း က နားလည်သဘောပေါက်သွားပုံ နဲ့ ဝတ္ထုကို အဆုံးသတ်ထားပါတယ်။

ဒီဝတ္ထုလေးရဲ့ ဘဝအပေါ်ရိုက်ခတ်မှုဟာ သိပ်ကိုကြီးမားပါတယ်။ Internalization ဖြစ်လို့ ကိုယ့်ရဲ့ alter ego လိုတောင် ဖြစ်ခဲ့ရတဲ့ အထိပေါ့။ သစ္စာဉာဏ်အလင်းရောင်မှာ ပုံသေနည်းလမ်းမရှိ ဘောင်သတ်မှတ်ချက်မရှိ= မိမိကိုယ်တိုင် တွေ့ကြုံပြီးမှ သိရတဲ့ သစ္စာတရား ကသာ စစ်မှန်တယ်ဆိုတဲ့ အခြေခံဥပဒေသတစ်ခု ကို ရရှိခဲ့သလို တစ်ကြောင်းစွဲ တစ်ယူသန် ဂိုဏ်းဂဏ ဘာသာရေးတွေ အဆောက်အအုံတွေ ကို မနှစ်သက်တတ်ခဲ့တော့တာလည်း အဲဒီ အချိန်ထဲက ပါပဲ။

**Lynn Htet Swe**

2018 August 25

# ကျွန်တော့်ကို ကျွန်တော်စစ်စစ် ဖြစ်စေခဲ့ကြသော စာအုပ် (၃)အုပ်အကြောင်း

ဆယ်ကျော်သက်ဘဝ တုန်းက အကြိုက်ကြီး ကြိုက်ခဲ့တဲ့ ဘာသာပြန် ဝတ္ထု သုံး အုပ်ရှိတယ်။

တစ်အုပ်ကတော့ ဆရာ ပါရဂူ ဘာသာပြန်တဲ့ သိဒ္ဓတ္ထ ဝတ္ထု ပါ။ သစ္စာတရား ကို ရှာမှီးတဲ့ ဗြဟ္မဏလုလင်တစ်ယောက်ရဲ့ အကြောင်း ပေ့ါ။ ဉာဏ်ပညာ ဆိုတာ သင်ကြားလို့ မရပဲ ကိုယ်ပိုင်အတွေ့အကြုံနဲ့ပဲ ရရှိဖို့ဖြစ်တယ်ဆိုတဲ့ အသိကို ပေးတယ်။

နောက်တစ်အုပ် ကတော့ ဆရာကြီးဘသန်း ဓမ္မိက ရဲ့ ယောနသံစင်ရော်။ အနိမ့်စား လောကတဏှာလေးတွေ ကို ကျော်လွန်ပြီး ပျံသန်းခြင်း အတတ်ရဲ့ လျှို့ဝှက်ချက်ကို ရှာဖွေလွတ်မြောက်သွားရတဲ့ ပင်လယ်ပျော် ငှက်ကလေးတစ်ကောင် အကြောင်း။ ဘဝ အနက်အဓိပ္ပါယ် ကို အာကာဝဟင်ရဲ့ စွန့်စားရဲဝံ့ခြင်းမှာ ပဲ ရှာဖွေ တွေ့ရှိခဲ့တယ်။

နောက်ဆုံးတစ်အုပ်ကတော့ ဆရာ မောင်ဆုရှင် ဘာသာပြန်တဲ့ ပင်လယ်ပြာ နဲ့ တံငါအို။ မာလင်ငါးကြီး နဲ့ သုံးရက် တိုင်အောင် တိုက်လို့ နိုင်ပေမဲ့ ငမန်းတွေ ဝိုင်းစားလို့ အရိုးပဲ ကျန်တာတောင် ဘဝကို မွတ်သိပ်ချစ်မြတ်နိုးနေတဲ့ တိုက်ပွဲပျော်ကြီး ဆန်တီယာဂို ရဲ့ အကြောင်း။ ငါးကြီး ကို ဆုံးခဲ့ ရပေမဲ့ အာဖရိက က ခြင်္သေ့တွေ ကို အိပ်မက်မက် နေသူပါ။

ဒီ ဝတ္ထု သုံးပုဒ်စလုံးဟာ အထီးကျန်ပုဂ္ဂလ ဝိညာဉ်တွေ ရဲ့ အားမန် နဲ့ ဘဝ ကို ကျော်ဖြတ်ပုံတွေ ကို ထင်လင်းပြတယ်။ ဘဝ တစ်ခုလုံး ရဲ့ နေဟန်ကို လွှမ်းမိုးခဲ့တယ်။ အုပ်စုစွဲ စိတ်တွေ ဘာသာစွဲ စိတ်တွေ ကနေ လွတ်မြောက်စေခဲ့ကြတယ်။

ကျွန်တော့် ကို ကျွန်တော်စစ်စစ် ဖြစ်စေခဲ့ကြတယ်။

**Lynn Htet Swe**

January 25, 2016

# သိဒ္ဓတ္ထ ကို နားလည်ခြင်း (၁)

Author: Lynn Htet Swe

Unicode

## အခန်း(၁)= ဗြဟ္မဏ၏သား

သိဒ္ဓတ္ထဝတ္ထုကို စတင်ဖွင့်လှစ်တဲ့ အခါ သိဒ္ဓတ္ထ ရဲ့ ငယ်စဉ်ဘဝကနေ စတင်ပြသတယ်။ သိဒ္ဓတ္ထ ဟာ အမြင့်မြတ်ဆုံး ဗြဟ္မဏမျိုးရိုးကနေ ဆင်းသက်တဲ့အတွက် သူ့မိဘတွေဟာ လည်း ဗြဟ္မဏတွေပဲ။ ကျေးလက်ဒေသမှာနေထိုင်ကြတယ်။ ရှေးက ဒီလိုနေထိုင်ခဲ့ကြတဲ့ ဟိန္ဒူ ကျေးရွာငယ်လေးတွေ အများကြီးထဲက တစ်ခု ဖြစ်မယ်ပေါ့။ သိဒ္ဓတ္ထ နဲ့ သူရဲ့ သူငယ်ချင်း ဂေါဝိန္ဒ တို့ ဟာ အမြဲ တတွဲတွဲနဲ့ အတူတူ နေထိုင်ကြတယ်။

သူတို့ ရွာလေးနားမှာ မြစ်တစ်စင်းရှိတယ်။ မြစ်ဆိုတာ ဟိန္ဒူယဉ်ကျေးမှု မှာ အသက်တမျှ အရေး ပါပါတယ်။ နတ်ဒေဝတာတွေ စံပျော်ရာ တောင်ထိပ်တွေ ဆီကနေ စီးဆင်းလာတဲ့ မြစ်တွေ ဟာ နတ်ဒေဝတာတွေ ဆီက အမြိုက်သုဒ္ဓာ ကို သယ်ဆောင်လာတယ်လို့ အယူရှိကြတယ်။ မြစ်ထဲမှာ ရေချိုး လို့ ဂါယတြီမန္တန်ကို နေ့စဉ် ရွတ်ဖတ်ရင် ရှိသမျှ အပြစ်တွေ အညစ်အကြေးတွေ စင်ကြယ်စေတယ်လို့ ယူဆတယ်။ ဟိန္ဒူတွေ သေဆုံးတဲ့ အခါ မီးသင်္ဂြိုဟ်ပြာချပြီး ပြာတွေ ကို မြစ်တွေထဲ မျှောချတာပဲ။ မြစ်ကပဲ သူတို့ ဝိညာဉ်တွေ ကို အမတဘုံကို သယ်ဆောင်သွားလိမ့်မယ်လို့ ယုံကြည်ကြတော့ မြစ်ဟာ သစ္စာတရားဆီ ကို ပို့ဆောင်ပေးတဲ့ လမ်းဆိုတဲ့ သင်္ကေတလည်း ရှိနေပါတယ်။ ဟက်စ် က သိဒ္ဓတ္ထ ရဲ့ ငယ်ဘဝ အစကို ဒီလို ဖော်ပြတယ်။

((အိမ်၏အရိပ်၌လည်းကောင်း၊ မြစ်ကမ်းပါးရှိ လှေနာဝါများ အပေါ် နေပူကျဲကျဲထဲ၌ လည်းကောင်း၊ မိုးမခပင်နှင့် သဖန်းပင်များ၏ အရိပ်အောက်၌လည်းကောင်း ဗြာဟ္မဏ၏သား လူချောလူလှ သိဒ္ဓတ္ထသည် သူငယ်ချင်း ဂေါဝိန္ဒနှင့် အတူ လူလားမြောက်လာခဲ့သည်။ မြစ်ကမ်းပါး၌ ရေချိုး မီးလှူ လုပ်သောကြောင့် သူ၏ကြံ့လိုသော ပခုံးများမှာ နေရောင်စားပြီး မွဲခြောက်ခြောက် ဖြစ်နေကြသည်။ သရက်ဥယျာဉ်အတွင်း ကစားနေသော အခါ၌လည်းကောင်း၊ သူ့မိခင် ဓမ္မသီချင်း သီဆိုနေစဉ်၌လည်းကောင်း၊ သူ့ဖခင် ပညာရှိသုခမိန်များနှင့် တရားဆွေးနွေး ပြောကြားနေသော အခါ၌

လည်းကောင်း သူ့မျက်လုံးများတွင် အရိပ်များ တရိပ်ရိပ်ပေါ်ပေါက်လာကြသည်။ သိဒ္ဓတ္ထသည် ပညာရှိသုခမိန်များ၏ တရားစကားဝိုင်း၌ ပါဝင်ဆွေးနွေးဖူးသည်မှာလည်း များလှပေပြီ။ သူငယ်ချင်းဂေါဝိန္ဒနှင့် တရားစကားငြင်းခုံ ဆွေးနွေးဖူးသည်မှာလည်း တစ်ကြိမ်မကပြီ။ ကမ္မဋ္ဌာန်း ဘာဝနာ ပွားများအားထုတ်ဖူးသည်မှာလည်း အကြိမ်များလှပြီ။ သူသည် မြင့်မြတ်သော အက္ခရာစာလုံးဖြစ်သည့် 'ဥုံ' ကိုလည်း အသံမထွက်ဘဲ ရွတ်ဆိုတတ်နေပြီ။ အာနာပါဏကမ္မဋ္ဌာန်းကို စီးဖြန်းရင်း နှင့်လည်း ထို 'ဥုံ' အက္ခရာကို ရွတ်ဆိုတတ်နေပြီ။ မြင့်မြတ်စင်ကြယ်သော စိတ်နှလုံး အရောင်ဝန်းသည် သူ၏ နဖူးပြင်၌ ထွန်းလင်းတောက်ပနေ၏။ မိမိဘဝ၏ အတွင်းသား၌ တည်ရှိ နေသော နိစ္စရူပဖြစ်သည့် အတ္တကိုလည်း သူသည်သိတတ်မြင်တတ် ဖြစ်နေလေပြီ။ ))

ဗုဒ္ဓဝင်မှာ ဘုရားလောင်း သိဒ္ဓတ္ထ ရဲ့ ဖခင် သုဒ္ဓေါဓနမင်းကြီးဟာ တိုင်းပြည်ငယ်လေးတစ်ခု ရဲ့ ရာဇာ ဖြစ်လို့ သူ့ သား ကို မဟာရာဇာကြီး ဧကရာဇ်မင်းကြီး ဖြစ်စေချင်ခဲ့တယ်။ ဒါက ဖခင်တွေ ရဲ့ ဆန္ဒပဲ။ သိဒ္ဓတ္ထ ရဲ့ ဖခင် ဗြဟ္မဏကြီး ကလည်း သူ့ သား ကို ပညာရှိပဏ္ဍိတ်ကြီးတစ်ဆူဖြစ်စေချင်တယ်။ သူ့ ပညာတတ်အသိုင်းအဝိုင်း ရဲ့ အဓိပတိကြီးတစ်ယောက်ဖြစ်စေချင်ခဲ့ပါတယ်။ ဒီသဘောကို ဟက်စ် က ဒီလိုဖော်ပြပါတယ်။

((မိမိသား၏ ဉာဏ်ထက်မြက်ပုံနှင့် ပညာဗဟုသုတ လိုက်စားပုံကို တွေ့ရသောကြောင့် ဖခင်သည် ပီတိဖြစ် နေသည်။ မိမိသားသည် ပညာရှိတစ်ဦးဖြစ်လာလိမ့်မည်ဟူ၍ လည်းကောင်း ယောဂီပုဂ္ဂိုလ်ကြီးတစ်ဦး ဖြစ်လာလိမ့်မည် ဟူ၍လည်းကောင်း၊ ဗြာဟ္မဏမျိုးနွယ်၏ မကိုဋ်မွှေ သရဖူဖြစ်လာလိမ့်မည်ဟူ၍လည်းကောင်း ဖခင်က မြင်ယောင်နေသည်။ မိမိသား၏ ထပုံ၊ ထိုင်ပုံ၊ သွားပုံ၊ လာပုံကို တွေ့ရသောအခါ မိခင်သည် ဘဝင်မြင့်နေ၏။ တောင့်တင်း သန်မာပြီး လှပပြေပြစ်သည့် သိဒ္ဓတ္ထသည် အလွန်တရာသိမ်မွေ့ နူးညံ့စွာ ဖြင့် မိခင်ကို ရိုသေသမှု ပြုလေသည်။ ))

ဘုရားလောင်းငယ်စဉ်က အပါးတော်မြဲ ဆန္နအမတ်ဆိုတာ ရှိတယ်။ ဘုရားလောင်းတောထွက်တဲ့ အခါ သူလည်းလိုက်ပါလို့ မြင်းမြီးဆွဲမောင်ဆန် လို့ ဗမာတွေ ခေါ်ကြတဲ့ ဘုရားလောင်း သိဒ္ဓတ္ထ ရဲ့ အလုပ်အကျွေးပေါ့။ ဘုရားဖြစ်ပြီးတဲ့နောက်မှာလည်း ညီတော်အာနန္ဒါ က ဘုရား ရဲ့ အပါးတော်မြဲအဖြစ် ဆက်လက် ဝတ်ပြုခဲ့တယ်။ မောင်ဆန် ကတော့ မာနကြီးလွန်းလို့ (ငါက ဘုရားလောင်း ရဲ့ ပီအေ ဖြစ်ခဲ့တာလို့ ဂုဏ်မောက်လို့)

ဘယ်သူဆုံးမတာမှမခံ ဗြဟ္မဒဏ် (လူမြတ်ကြီး အပြစ်) တောင် အပေးခံရတယ် ဆိုကြတယ်။ ဝတ္ထုထဲက သိဒ္ဓတ္ထ မှာလည်း ဂေါဝိန္ဒဆိုတဲ့ အပေါင်းတော်မြ သူငယ်ချင်းတစ်ယောက်ရှိတယ်။

((ဗြာဟ္မဏ၏ သားတစ်ယောက်ဖြစ်သူ ဂေါဝိန္ဒမှာမူ သူ့ကို အချစ်ဆုံးဖြစ်လေသည်။ ဂေါဝိန္ဒသည် သိဒ္ဓတ္ထ၏ လှပသော မျက်လုံးနှင့် ကြည်လင်ပြတ်သားသော အသံကို ချစ်၏။ သိဒ္ဓတ္ထလမ်းသွားပုံကို နှစ်သက်၏။ သိဒ္ဓတ္ထ၏ သိမ်မွေ့ သော ဟန်အမူအရာကို သဘောကျ၏။ သိဒ္ဓတ္ထလုပ်သမျှ ပြောသမျှ ဘာမဆို အကုန်ကျေနပ်၏။ သိဒ္ဓတ္ထ၏ပညာ၊ သိဒ္ဓတ္ထ၏ ထက်မြက်သည့်အတွေးအခေါ်၊ သိဒ္ဓတ္ထ၏ ခိုင်မာသော စိတ်ဓာတ်၊ သိဒ္ဓတ္ထ၏ မြင့်မြတ်သော တရားဓမ္မစိတ်ကိုမူ အကြိုက်ဆုံးဖြစ်လေသည်။ သိဒ္ဓတ္ထသည် သာမန် ဗြာဟ္မဏ ရိုးရိုး တစ်ယောက် ဖြစ်လိမ့်မည် မဟုတ်ဟူ၍လည်းကောင်း၊ ယဇ်ပူဇော်ပေးသူ ဗြာဟ္မဏတစ်ယောက် ဖြစ်လိမ့် မည်မဟုတ်ဟူ၍ လည်းကောင်း၊ မျက်လှည့် ပဉ္စလက်အကြောင်းများကိုပြောပြီး စီးပွားရှာသည့် ငွေမက်သည့် ဗြာဟ္မဏတစ်ယောက် ဖြစ်လိမ့်မည် မဟုတ်ဟူ၍လည်းကောင်း၊ အခြောက်တိုက် ဘဝင်မြင့် နေသည့် စာဟောဆရာ ဗြာဟ္မဏတစ်ယောက် ဖြစ်လိမ့်မည်မဟုတ်ဟူ၍ လည်းကောင်း၊ စိတ်ယုတ်မာရှိသည် ပုရောဟိတ်စဉ်းလဲ ဖြစ်လိမ့်မည်မဟုတ်ဟူ၍လည်းကောင်း သို့မဟုတ် တိရစ္ဆာန်အုပ်ထဲက ရိုးအသည့် သိုးကလေးတစ်ကောင် ဖြစ်လိမ့်မည် မဟုတ်ဟူ၍ လည်းကောင်း ဂေါဝိန္ဒက တွက်လေသည်။ သူကိုယ်တိုင် လည်း ယင်းအမျိုးအစားထဲက တစ်ခုခုမျှ ဖြစ်လိုစိတ်မရှိပေ။ အရာအထောင်သော အခြားဗြာဟ္မဏ တို့ကဲ့သို့ သော ဗြာဟ္မဏတစ်ယောက်လည်း ဖြစ်လိုစိတ်မရှိပေ။ မြင့်မြတ်ကြီးကျယ်သော အချစ်ဆုံး သိဒ္ဓတ္ထ နောက်သို့သာလျှင် သူလိုက်လိုသည်။ ထို့ပြင်အကယ်၍ သိဒ္ဓတ္ထသည် နတ်ဖြစ်ပြီး နတ်ပြည်စံလျှင် ထိုအချိန်အခါ၌ လည်း ဂေါဝိန္ဒသည် သိဒ္ဓတ္ထ၏ သူငယ်ချင်းအဖြစ်နှင့်၊ သိဒ္ဓတ္ထ၏ အဖော်အဖြစ်နှင့်၊ သိဒ္ဓတ္ထ၏ အလုပ်အကျွေး အဖြစ်နှင့် သိဒ္ဓတ္ထနောက်သို့သာလျှင် ထက်ကြပ်မကွာ လိုက်ပါလိုလှသည်။ ))

ဟက်စ် က ဂေါဝိန္ဒ ကို သိဒ္ဓတ္ထ နဲ့ Contrast ဖြစ်အောင် ပုံဖော်ထားတယ်။ သိဒ္ဓတ္ထ က မာနကြီးသူ ဉာဏ်ရည်ထက်မြက်သူ ကိုယ့်ကိုယ်ကိုပဲ ယုံကြည်သူ တစ်ယောက်ဖြစ်ပေမဲ့ ဂေါဝိန္ဒ ကတော့ သူတပါး ကို အားကိုးချင်တဲ့သူ ဆရာရှာနေတဲ့သူ ယုံကြည်မှု ရဲ့ နောက်လိုက်

အဖြစ်ပုံဖော်ထားပါတယ်။ ဟက်စ် ဟာ ဒီလမ်းစဉ် နှစ်ခု ရဲ့ ခြားနားမှု ကိုလည်း ဝတ္ထုမှာဖော်ထုတ်သွားတယ်။ ဂေါဝိန္ဒဟာ ပြင်ပ က ဆရာတွေ က ရှင်းပြမယ့် တရားဒေသနာတွေ ကို ပဲ အားကိုးနေလို့ မိမိ အတွင်းသန္တာန်က သစ္စာတရား ကို မမြင်နိုင်ဘူး။ သူရှာဖွေနေတဲ့ ငြိမ်းချမ်းခြင်း (နိဗ္ဗာန်) ဟာ သူ့အနီးအနား က သာမန်သေးကွေးတဲ့ အရာလေးတွေမှာတောင် ထင်ဟပ်နေတယ်ဆိုတာ ကို သတိမမူမိသူ အဖြစ် ဖော်ပြထားပါတယ်။ ဂေါဝိန္ဒဟာ ဟိန္ဒူဘာသာဝင်အဖြစ် သိဒ္ဓတ္ထ နဲ့ အတူနေခဲ့တယ်။ သမဏလမ်းစဉ်ကို သိဒ္ဓတ္ထနဲ့ အတူလိုက်လျှောက်တယ်။ နောက်ဆုံး ဗုဒ္ဓ ရဲ့ တပည့် ရဟန်းဖြစ်သွားတယ်= ဆိုတော့ သူဟာ ပြင်ပဆရာတွေ အစဉ်အလာတွေ ကို အားကိုးယုံကြည်တဲ့ သာမန်ဘာသာဝင်တွေ ဘာသာရေးသမားတွေ ရဲ့ ပုံရိပ်ကို ကိုယ်စားပြုနေပါတယ်။ သိဒ္ဓတ္ထ ကတော့ ပြင်ပဆရာတွေ ကို မယုံကြည်သူ မိမိအတွင်းသန္တာန်ထဲက သစ္စာတရား ရဲ့ အသံကိုပဲ နားထောင်သူ ဖြစ်တယ် လို့ ဟက်စ် က ဆိုလိုချင်ဟန်ရှိပါတယ်။

ဘုရားလောင်းသိဒ္ဓတ္ထမင်းသားဟာ ရမ္မာ သုရမ္မာ စတဲ့ နန်းသုံးဆောင်မှာ ကာမဂုဏ်စည်းစိမ်တွေ အပြည့် ဝိုင်းရံပြီး စိတ်ထင်တိုင်း ခံစားနေနိုင်ပေမဲ့ ကာမတော ကို သူမပျော်ဘူး။ ကာမဂုဏ်အာရုံတွေ ဟာ သူ့ အတွင်းစိတ်ထဲက မေးခွန်းတွေ ကို မရောင့်ရဲစေနိုင်ခဲ့ဘူး။ ဘဝမှာ ရုပ်ဝတ္ထုအားလုံးပြည့်စုံနေပေမဲ့ တစ်ခုခု လပ်ဟာနေတယ်လို့ ခံစားနေရတယ်။ ဖြစ်တည်မှုဝါဒ စကားနဲ့ ပြောရရင်တော့ သိဒ္ဓတ္ထ မင်းသားဟာ Homelessness ဆိုတဲ့ ခံစားမှုမျိုး ကို ရနေခဲ့တယ်။ နန်းတော်ကြီးပေါ်နေရပေမဲ့ အိုးအိမ်မဲ့တစ်ယောက်လို ခံစားနေရတယ်။ သူလိုချင်တဲ့ အဖြေ က ဒီနန်းတော်တွေ ရဲ့ ပြင်ပ အဝေးတစ်နေရာရာမှာ ရှိနေလိမ့်မယ်လို့လဲ ထင်နေခဲ့တယ်။ အလားတူပဲ ဟက်စ် ရဲ့ သိဒ္ဓတ္ထ ဟာလည်း သူ့ ရဲ့ မိသားစုဘဝ ဗြဟ္မဏတစ်ယောက်ရဲ့ ဘဝ ကို မပျော်ရွှင်ဘူး။ သူ့စိတ်ဝိညာဉ်က ဆာလောင်မွတ်သိပ်နေတဲ့ အဆုံးစွန်သော အသိပညာ နဲ့ ငြိမ်းချမ်းခြင်း ကို သူ့ ဖခင် ရဲ့ အိမ်နဲ့ သူ့ပတ်ဝန်းကျင် က မဖြည့်ဆည်းပေးနိုင်ဘူးလို့ ခံစားနေရတာပါ။

((ယင်းသို့လျှင် သိဒ္ဓတ္ထအား အားလုံးက ချစ်ကြ မြတ်နိုးကြသည်။ သိဒ္ဓတ္ထကလည်း အားလုံးအား ကျေနပ်နှစ်သိမ့်အောင်၊ ပျော်ရွှင်အောင် ပြုမူလေသည်။ သို့ရာတွင် သိဒ္ဓတ္ထကိုယ်တိုင်ကမူ

မပျော်ရွှင်ရှာပေ။ သဖန်းဥယျာဉ်အတွင်းရှိ နှင်းဆီပန်းများ ပွင့်လန်းဝေဆာနေသည့်လမ်းများပေါ်တွင် လျှောက်သွားသည့်အခါသမယ၌လည်းကောင်း၊ ပန်းချုံ ပန်းရုံများ၏ ညို့မှိုင်းသော အရိပ်အောက်၌ထိုင်ပြီး ကမ္မဋ္ဌာန်းဘာဝနာ ပွားများအားထုတ်နေသည့်အခါသမယ၌လည်းကောင်း၊ စိတ်နှလုံး ဖြူစင်ရန်အတွက် မြတ်သောရေချိုးခြင်း ပြုလုပ်နေသည့် အခါသမယ၌လည်းကောင်း၊ သရက်ပင်ဥယျာဉ်၏ တစ်ခဲနက် ညို့မှိုင်းလျက်ရှိသော အရိပ်အောက်၌ ထိုင်ပြီး ယဇ်ပူဇော်နေသည့်အခါသမယ၌လည်းကောင်း အလွန်တရာ သိမ်မွေ့ပြပြေစ်သော

အမူအရာများဖြင့် သူသည် အားလုံးအား နှစ်သိမ့်စေခဲ့သည်။ ရွှင်ပြုံးစေခဲ့သည်။ သို့ရာတွင် သူ၏နှလုံးအိမ် အတွင်း၌မူ နှစ်သိမ့်မှု မရှိခဲ့။ ဲ ရွှင်ပြုံးမှုမရှိခဲ့။ ဲ မြစ်နဒီမှ လည်းကောင်း၊ ညဥ့်အခါတွင် ပြိုးပြိုးပြက်ပြက် ဖြစ်နေကြသော ကြယ်တာရာများမှ လည်းကောင်း၊ နေမင်း၏ ဝင်လုဆဲနေရောင်ခြည်များမှ လည်းကောင်း အိပ်မက်များနှင့် ရပ်နားခြင်းမရှိသည့် အတွေးများသည် သူ့ထံသို့ဝင်လာမစဲဖြစ်နေသည်။ ယဇ်ပူဇော်သည့် မီး၏ အခိုးအငွေ့များမှလည်းကောင်း၊ လူကြီးသူမ ဗြာဟ္မဏများ၏ အဆုံးအမ ဥပဒေသများမှလည်းကောင်း ပေါ်ထွက်ပြီး သူ့ထံလာနေကြသည်။

သိဒ္ဓတ္ထသည် မိမိသန္တာန်၌ မကျေနပ် ရောင့်ရဲမှု အစေ့များ အညွန့်အညောက် ပေါ်လာပြီ ဆိုသည့် အကြောင်းကို သိစပြုလာသည်။ သူ့ဖခင် မိခင်၏ ချစ်ချင်းမေတ္တာနှင့် သူငယ်ချင်း ဂေါဝိန္ဒ၏ ချစ်ခြင်းမေတ္တာတို့သည် အခါခပ်သိမ်းပင် သူ့ကို ရွှင်ပြုံးအောင် မလုပ်ဟူ၍လည်းကောင်း၊ သူ့အား ငြိမ်းချမ်းမှုမပေးဟူ၍လည်းကောင်း၊ သူ့ကို ကျေနပ်ရောင့်ရဲမှုရအောင် မပြုဟူ၍လည်းကောင်း သိဒ္ဓတ္ထ နားလည်စပြုလာသည်။ သူ၏ အရည်အချင်း ပြည့်ဝသည့်ဖခင်နှင့် ဆရာသမားများသည် လည်းကောင်း၊ ဗြာဟ္မဏများသည်လည်းကောင်း၊ သူတို့၏ ကြွယ်ဝသော ပညာကောင်း ပညာမွန် များကို သူ၏ဆိတ်သုဉ်းနေသည့် ခွက်ထဲသို့ လောင်းထည့်ကြသည်။ သို့ရာတွင် သူ၏ခွက်သည် ပြည့်မလာသေးပေ။ သူ၏ အသိဉာဏ်သည် ရောင့်ရဲတင်းတိမ်မှု မရှိသေးပေ။ သူ၏ဝိညာဉ်သည် ငြိမ်းချမ်းမှု မရရှိသေးပေ။ သူ၏နှလုံးသည် တည်ငြိမ်မှု မရရှိသေးပေ။ ))

# သိဒ္ဓတ္ထကို နားလည်ခြင်း (၂)။

ဒဿနပညာရှင် ဂျိုးဆက်ကမ်ဘဲလ် က သူရဲ့ နာမည်ကျော် Hero with a Thousand Faces ဆိုတဲ့ ကျမ်းမှာ သူရဲကောင်းဒဏ္ဍာရီတွေ အားလုံးရဲ့ အခြေခံတူညီတဲ့ပုံရိပ်ကို သုတေသနပြုခဲ့တယ်။ သူရဲကောင်းတွေဟာ ဘဝ ပြည့်စုံမှု ကို ရှာဖွေတဲ့ ခရီးလမ်းစခန်းအဆင့်ဆင့်ကို ဖြတ်သန်းကြရတယ်လို့ သူကဆိုပါတယ်။

သူရဲကောင်း ဟာ သာမန်ဘဝတစ်ခုကနေစတင်မယ် သာမန်ဘဝအခြေအနေ အများနဲ့ရောနှောနေရတဲ့ အခြေအနေ ကို သူ စိတ်ပျက်ငြီးငွေ့လာမယ် ဒီကနေစွန့်ခွာဖို့ကြိုးစားတယ်ပေါ့။ သူ့အတွင်းအဖျွတ္တာထဲက ခေါ်သံကို သူကြားရတယ် သူ့ကို ကူညီပေးတဲ့ အသိပညာမျှေဝသူတွေလည်းရှိနေတယ်။ အဲဒီကနေ သူရဲကောင်းဟာ အကာအရံအတား အဆီးတွေ ကို ကျော်ဖောက်ထိုးထွက်ပြီးတော့ သာမန်လွန်ဘဝ ကို ရောက်အောင် သွားခဲ့တယ်။ ခရီးလမ်းမှာ သူဟာ အခက်အခဲမျိုးစုံ စိန်ခေါ်မှု အဖုံဖုံ နဲ့ ကြုံတွေ့ ရင်ဆိုင်ရတယ်။ နောက်ဆုံး အကြီးမားဆုံး အခက်အခဲ စိန်ခေါ်မှုကို ဖြတ်သန်းကျော်လွှန်နိုင်ခဲ့ပြီးတဲ့ အခါ သူရဲကောင်းဟာ နောက်ဆုံး အောင်မြင်မှု ကိုရပါတယ်။

ဒီအောင်မြင်မှုမှာ သူ့ရဲ့ ဘဝပြဿနာတွေ အားလုံးကို ဖြေရှင်းပြီးဖြစ်တဲ့ အနေအထားကို ရောက်ရှိသွားတယ်။ သူရဲကောင်းဟာ သူ ရရှိခဲ့တဲ့ အသိဉာဏ်ပညာကို တခြား ဘဝတူလူသားတွေ ဆီကို ပြန်လည်မျှဝေ ပေးဖို့အတွက် သူဟာ သာမန်လူတွေ ရဲ့ ဘဝထဲ ကို ပြန်လည် ဝင်ရောက်လာခဲ့တယ် လို့ ကမ်ဘဲလ် က သုံးသပ် ထားပါတယ်။

ဗုဒ္ဓဝင်ထဲက ဗုဒ္ဓရဲ့ ဖြစ်စဉ်မှာ ဒီ အဆင့်တွေ အားလုံး ပါနေတာကို သိကြမှာပါ။ ဘုရားလောင်းတောထွက်ခန်း ရဟန်းပြုခန်း ဒုက္ကရစရိယာကျင့်ခန်း မာရ်နတ်နဲ့ ရင်ဆိုင်ခန်း ဘုရားဖြစ်ခန်း နဲ့ တရားဦးဟောကြားခန်း တွေ ဟာ ဒီ အဆင့်တွေ ကို ထင်ဟပ်နေပါတယ်။

ဟက်စ် ရဲ့ သိဒ္ဓတ္ထဟာလည်း ဗုဒ္ဓဖြစ်သန်းခဲ့သလို အလားတူ ဘဝခရီးအဆင့်တွေ ကို ဖြတ်သန်းရပါတယ်။ သိဒ္ဓတ္ထဟာ သူတို့ ဗြဟ္မဏဘာသာတရား ရဲ့ ထုံးတမ်းဓလေ့တွေ နဲ့ ကျင့်ဝတ်တွေ အပေါ်မှာ စတင်ပြီး သံသယတွေ ပွားလာမိပါတယ်။

ဘာသာရေး ထုံးတမ်းစဉ်လာအရ မြစ်ထဲမှာ ရေချိုးပြီး မန္တန်ရွတ်ရုံနဲ့ စိတ်ထဲ က အညစ်အကြေးတွေဟာ စင်ကြယ်လို့သွားနိုင်သလား= နတ်ဒေဝတာတွေ ကို ပူဇော်တဲ့ ဂါထာတွေ မန္တရားတွေ ကို စီကုံးသီဆိုပူဇော် နေတာတွေ ကရော တကယ် အကျိုးရှိရဲ့လား စိတ်ချမ်းသာမှု အစစ်အမှန်ကိုပေးနိုင်ပါရဲ့လား။ ရှေးဟောင်း ဟိန္ဒူစာပေကျမ်းဂန်တွေ ဖြစ်တဲ့ဝေဒ ဥပနိသျှဒ် စတာတွေမှာ လောက ကို ဗြဟ္မန် (အတ္တ) က မာယာဖြင့် ဖန်ဆင်းခဲ့တယ်ဆိုတာကရော တကယ်မှန်ပါရဲ့လား။ အဲဒီ အတ္တ ကို ဘယ်နေရာမှာ ရှာရင်တွေ့နိုင်ပါသလဲ။ ပညာရှိသူတော်စင်ဆိုသူတွေ ကရော အတ္တရှိရာအရပ်ကို တကယ်ပဲ ညွှန်ပြနိုင်ပါရဲ့လား။ သူ့ ဖခင် နဲ့ ကျမ်းတတ်ေဝဒပညာရှင်တွေ ကရော ပြဿနာတွေ ရဲ့ အဖြေမှန်ကို သိသူတွေ ဖြစ်ပါရဲ့လား။ စတဲ့ သံသယမေးခွန်းတွေဟာ သိဒ္ဓတ္ထ ရဲ့ ရင်ထဲမှာ ကြီးထွားလို့လာကြတယ်။ သူတို့ ဗြဟ္မဏတွေ ရှာဖွေနေတဲ့ အတ္တ ကို တကယ်ရော သူတို့ တွေ့သိပြီးကြပြီလား စိတ်ငြိမ်းချမ်းမှုတွေ ရခဲ့ကြပြီလားဆိုတာ ကို သိဒ္ဓတ္ထဟာ မယုံကြည်နိုင်တော့ဘူး ဖြစ်လာခဲ့ပါတယ်။ ဒါကို ဟက်စ် က ဒီလို ရေးဖွဲ့ပါတယ်။

((အတ္တသည် အသား၊ အရိုးမဟုတ်။ အတွေး၊ အသိမဟုတ်။ ယင်းသို့လည်း ပညာရှိများ အမိန့်ရှိထားကြ၏။ သို့ဖြစ်လျှင် အတ္တဘယ်မှာရှိသနည်း။ အတ္တရှိရာသို့ သွားဖို့ရန်အတွက် တခြား ရှာဖွေသင့် ရှာဖွေအပ်သည့်လမ်းရှိသေးသလော။ ထိုလမ်းကို မည်သူမျှ မညွှန်ပြ။ ထိုလမ်းကို မည်သူမျှမသိ။ သူ့ဖခင်လည်း မသိ။ သူ့ဆရာသမားလည်း မသိ။ မြင့်မြတ်သည့်ဓမ္မဂီတများကလည်း မသိ။ ဗြာဟ္မဏများနှင့်ငင်းတို့၏ မြင့်မြတ်သည့် ဓမ္မကျမ်းဂန်များသည် အရာဝတ္ထုအားလုံးကိုသိ၏။ ၎င်းတို့သည် အရာဝတ္ထုအားလုံး အတွင်းသို့ ထွင်းဖောက်ဝင်ရောက်၏။ ကမ္ဘာလောကကိုဖန်ဆင်းမှု၊ စကားစတင်ဖြစ်ပေါ်မှု၊ ထွက်သက်ဝင်သက်၊ ဣန္ဒြေတို့၏အစီအစဉ်၊ နတ်ဒေဝတာတို့၏ အပြုအမူ စသည် အားလုံးကိုသိ၏။ ၎င်းတို့သည် ကျယ်ပြန့်သော အသိဉာဏ်နှင့် ပြည့်စုံ၏။ သို့ရာတွင်

အရေးကြီးသော အရာဝတ္ထုတစ်ခုကို တစ်ခုတည်းသော အရေးကြီးသော အရာဝတ္ထုကို မသိလျှင် ထိုအရာဝတ္ထုအားလုံးကို သိ၍ကော ဘာအကျိုးကျေးဇူးရှိမည်နည်း။ ဓမ္မကျမ်းဂန်များ၏ များစွာသော ဂါထာတို့သည်လည်းကောင်း၊ အားလုံးထက်ပိုပြီး သာမဝေဒ၏ ဥပနိသျှဒ်တို့သည် လည်းကောင်း၊ ယင်းအတွင်းကျသည့် အရာဝတ္ထု အကြောင်းကို ပြောပြကြသည်။ 'သင်၏ဝိညာဉ်သည် ကမ္ဘာလောက တစ်ခုလုံးကို ဖြစ်သည်' ဟု ရှင်းလင်းပြတ်သားစွာ ရေးသားထားသည်။ အိပ်ပျော်သွားလျှင် သူသည် မိမိ၏ အတွင်းသားထဲသို့ ထိုးဖောက်ဝင်ရောက်သွားပြီး အတ္တ၌ နေထိုင်၏ဟူ၍ ပြောပြထားသည်။ ယင်းဂါထာ ပုဒ်ပါဌ်များ၌အံ့သြဖွယ် ပညာဉာဏ်များ စုနေကြသည်။ ရသေ့သူတော်စင်တို့၏ အသိပညာ အားလုံးကို ပျားများသိုမှီးထားသည့် ပျားရည်ကဲ့သို့ စင်ကြယ်သန့်ပြန့်စွာ နှစ်လိုဖွယ် ဘာသာစကားလုံး များဖြင့်ဖွင့်ပြ ထားသည်။ ဗြာဟ္မဏပညာရှိ ဘိုးစဉ်ဘောင်ဆက်တို့ သိုမှီးထိန်းသိမ်း ထားခဲ့သည့် ယင်းကြွယ်ဝသော အသိပညာအစုအပုံကို ခပ်လွယ်လွယ် ဥပေက္ခါပြုလိုက်၍ မဖြစ်ပေ။ သို့ရာတွင်ယင်း ကြွယ်ဝသော အသိပညာကို ရရုံသာလျှင် မဟုတ်။ သိမြင် ထိတွေ့ခြင်း၌ အောင်မြင်မှု ရှိကြသော ထိုဗြာဟ္မဏများ ထိုပုရောဟိတ်များ၊ ထိုပညာရှင်များ ယနေ့ဘယ်မှာ ရောက်ရှိနေကြသနည်း။ အိပ်ပျော်နေစဉ်၌ အတ္တကို ရရှိပြီး ထိုအတ္တကို ရင်းနှီးနေသော အခါ၌လည်းကောင်း၊ အသက်ရှိနေသောအခါ၌လည်းကောင်း၊ နေရာအနှံ့အပြား စကား၌လည်းကောင်း၊ အလုပ်၌လည်းကောင်း၊ထိန်းထားနိုင်သည့် ထိုဉာဏ်ရှင်၊ ပညာရှင်များ အခု ဘယ်ရောက်နေကြသနည်း။ သိဒ္ဓတ္ထသည်ထိပ်တန်းဗြာဟ္မဏ များစွာကိုသိ၏။ အားလုံးထက်ပိုပြီး သူ့ဖခင်သည် မြင့်မြတ်စင်ကြယ်သူ၊ ဉာဏ်ပညာကြီးသူ၊ လေးစားအပ်သူ ဗြာဟ္မဏတစ်ဦးဖြစ်၏။ သူ၏အမူအရာသည် ငြိမ်သက်၏။ မြင့်မြတ်၏။ သူ၏ဘဝသည် စင်ကြယ်ကောင်းမြတ်၏။ သူ၏ စကားများသည် နက်နဲ၏။ သူ၏ဦးနှောက်၌ လှပမြင့်မြတ်သော အတွေးအခေါ်များစု၍နေ၏။ ဤ၍ရွေ့ဤ၍မျှ တတ်သိနားလည် နေသော သူ့ဖခင်သည်ပင်လျှင် စိတ်အေးလက်အေး နေရပြီလော။ ငြိမ်းချမ်းမှု ရပြီလော။ သူလည်း မရောင့်ရဲနိုင် သေးသော သုတေသီ တစ်ယောက်ပင်မဟုတ်လော။ သူကော မရောင့်ရဲနိုင်သည့် မွတ်သိပ်မှုဖြင့် ဓမ္မခရီးကို ဆက်မသွားဘူးလော။ ယဇ်ပူဇော်မှုများ၌ လည်းကောင်း၊ ကျမ်းဂန် စာအုပ်များ၌လည်းကောင်း၊ ဗြာဟ္မဏတို့၏ တရားအဆုံးအမ၌ လည်းကောင်း၊ သူသည် မသိသေးသည့်

အရာကို မစူးမစမ်း မရှာဖွေဘူးလော။ သူသည် အပြစ်အနာအဆာမရှိသူဖြစ်သော် လည်း နေ့စဉ် နေ့တိုင်း အဘယ်ကြောင့် မြတ်သော ရေချိုးခြင်းဖြင့် မိမိအပြစ်ကို ဆေးကြောပြီး မိမိကိုယ်ကို စင်ကြယ်အောင် ပြုလုပ်နေသနည်း။ ယင်းသို့ဖြစ်ပါမူ သူ၏အဇ္ဈတ္တိက သန္တာန်၌အတ္တမရှိဘူးလော။ သူ၏နှလုံးအတွင်း၌ အချက်အလက် မရှိဘူးလော။ လူသည် မိမိ၏အဇ္ဈတ္တိက သန္တာန်အတွင်းမှသာလျှင် အချက်အလက်ကို ရယူသင့်သည်။ လူသည် အချက်အလက်နှင့်ပြည့်စုံ အောင်ပြုသင့်သည်။ ထိုမှတစ်ပါး အခြားသော အရာများသည် ရှာမှီးခြင်းသာဖြစ်သည်။ မိမိကိုယ်ကို လှည့်စားခြင်း သာဖြစ်သည်။ ဤကား သိဒ္ဓတ္ထ၏ အတွေးဖြစ်သည်။ သိဒ္ဓတ္ထ၏ မွတ်သိပ်မှုဖြစ်သည်။ သိဒ္ဓတ္ထ၏ ခံစားမှုဖြစ်သည်။ ))

ဒီအခြေအနေမှာ သိဒ္ဓတ္ထ ဟာ မိရိုးဖလာ ဘာသာတရား ကို သံသယဝင်စပြုနေတဲ့ စိတ်ကုန်နေတဲ့ လူငယ်တစ်ယောက်အဖြစ်မြင်ရတယ်။ ရိုးရာဘာသာရေး ထုံးစံတွေ ဆိုတာတော့ ရှေးဟောင်းကျမ်းစာတွေ ကို အခြေခံလို့ အများလုပ်သလို အစဉ်အဆက် လုပ်ဆောင်ကြရတဲ့ ထုံးတမ်းဓလေ့တွေ များပါတယ်။ အနက်အဓိပ္ပါယ် အစစ်လည်း ကွယ်ပျောက်လို့ လုပ်ရိုးလုပ်စဉ် ကိစ္စတွေလောက်သာ ရှိတော့တယ်။ သိဒ္ဓတ္ထဟာ ဗြဟ္မာစာရီ ဖြစ်လို့ ဘုရားလောင်း သိဒ္ဓတ္ထလို ကာမဂုဏ်တောထဲ ရောက်နေသူတော့မဟုတ်ဘူး လောလောဆယ်မှာ သူ့အတွက် ကာမနှောင်ကြိုးတွေတော့မရှိဘူး သံသယနှောင်ကြိုးတွေ ရဲ့ ဆွဲအား ကိုသာ ခံနေရတာ ဖြစ်တယ်။ လမ်းဟောင်းကိုစွန့်လို့ လမ်းသစ်ကိုဖောက်ကြည့်ချင်တဲ့ စိတ်တွေ ကလည်း လူငယ်ပီပီ ဖြစ်နေခဲ့မှာ အမှန်ပါပဲ။

ဗုဒ္ဓအလောင်းတော် ကတော့ ဥယျာဉ်ထဲကနေ မြို့အပြင်ဘက်ထွက်လာတော့ သူအိုသူနာသူသေရဟန်း ဆိုတဲ့ နိမိတ်တွေကို မြင်ရတယ်။ ဒီအခါမှာ ကာမတောထဲမှာ နစ်နေရတဲ့ ဘဝ ကို ငြီးငွေ့စက်ဆုပ်မှုတွေ ဖြစ်လာတယ် ထိတ်လန့်တုန်လှုပ်တဲ့ သံဝေဂဉာဏ်တွေ ဖြစ်လာရတယ်။ ပျိုမြစ်နုနယ်တဲ့ ဘဝဟာ အိုမင်းရင့်ရော်ခြင်းမှာ အဆုံးသတ်ရမယ် ကျန်းမာပျော်ရွှင်ခြင်းတွေဟာလည်း ရောဂါဝေဒနာတွေနဲ့ အဆုံးသတ်ရမယ် အသက်ရှင်သန်ခြင်းဟာလည်း သေဆုံးခြင်းပျက်စီးခြင်းနဲ့ အဆုံးသတ်ရမယ်= ဒီလိုသူမြင်လာတယ် အိုနာသေတွေ ရဲ့ ထွက်ပေါက်

မအိုမနာမသေ ကို ရဖို့ ဘယ်လမ်းကသွားနိုင်လည်း တွေးတော့ ရဟန်းနိမိတ် ကို မြင်ရတဲ့ အခါမှာ ဒါဟာ လမ်းပဲလို့ စဉ်းစားပြီး တောထွက်ခဲ့တယ်။

ဟက်စ်ရဲ့ သိဒ္ဓတ္ထ ကလည်း လက်ရှိဘဝကို သံသယဖြစ်လို့ လမ်းသစ်ရှာဖွေနေစဉ်မှာ သူ့အတွက် ရသေ့ရဟန်း နိမိတ်ကို မြင်ရပါတယ်။ ဒါဟာလမ်းဖြစ်လေမလား သူရှာဖွေနေတဲ့ အတ္တ ကို တွေ့နိုင်တဲ့ နေရာတစ်ခုများ ဖြစ်လေမလားလို့ ထင်မိခဲ့တယ်။ သိဒ္ဓတ္ထ ဟာ သမဏသူတော်စင်တွေ ကို တွေ့ဆုံခဲ့ရပါတယ်။

((တစ်ခါတုန်းက သမဏအချို့သည် သိဒ္ဓတ္ထ၏ မြို့မှ ဖြတ်သွားကြဖူးသည်။ ဒေသစာရီခရီးလှည့်လည်နေ သည့် ယောဂီသုံးဦးတို့ ဖြစ်ကြသည်။ သုံးဦးလုံးပင် ကိုယ်ကာယ ကြုံလှီခြောက်ကပ်နေသူများ ဖြစ်ကြ၏။ အရွယ်အားဖြင့်မူ အိုလည်းမအို၊ ပျိုလည်း မပျို။ သူတို့၏ပခုံး၌ မြေမှုန့်အလိမ်းလိမ်း ကပ်နေ၏။ သွေးစသွေးန ပေကျံနေ၏။ သူတို့သည် ကိုယ်လုံးတီးများ ဖြစ်ကြ၏။ နေရောင်စားသဖြင့် အသားအရေများ မွဲခြောက်ခြောက်ဖြစ် နေ၏။ သူတစ်ပါးနှင့်လည်း ရောရောနှောနှောမရှိ။ ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်ဆန်း ဖြစ်နေကြ၏။ ကြည့်ရ သည်မှာ နှစ်မြို့ဖွယ်လည်း မရှိ။ လူအသိုင်းအဝိုင်းထဲ၌ တောခွေးပိန်များ ရောက်လာသကဲ့သို့ ထင်ရ၏။ သူတို့၏ လေးဘက်လေးတန်၌ ငြိမ်သက်နေသော အတွေးအသိ ပတ်ဝန်းကျင် လွှမ်းနေ၏။ သူတို့၏အကျင့်မှာအပြု မဟုတ်။ အဖျက်ဖြစ်၏။ မိမိတို့၏ ဘဝကို အညှာအတာမဲ့စွာ လျစ်လျူရှုထားသူများ ဖြစ်ကြ၏။ ))

သိဒ္ဓတ္ထ သူရဲ့ ဗြဟ္မဏဘာသာတရားကို စွန့်ခွာလို့ သမဏတွေ နောက်ကို တပည့်ခံပြီးလိုက်သွားတော့မယ်လို့ ဆုံးဖြတ်လိုက်ပါတယ်။ သူ့ရဲ့ ခိုင်မာတဲ့ ဆုံးဖြတ်ချက်ကြောင့် သူငယ်ချင်းဖြစ်တဲ့ ဂေါဝိန္ဒ ကလည်း သူနဲ့ အတူ လိုက်ပါဖို့ဆုံးဖြတ်ခဲ့တယ်။

တကယ်တော့ သမဏတွေ ဆိုတာ ဗြဟ္မဏတွေ ရဲ့ ဆန့်ကျင်ဘက်မှာ ရပ်တည်နေကြသူတွေ ဖြစ်တယ်။ ဗြဟ္မဏတွေ ဝေဒကိုလက်ခံတယ် ယဇ်ပူဇော်မှု မန္တန်ရွတ်ဆိုမှုနဲ့ မြင့်မြတ်သောရေချိုးခြင်းတွေ ကိုလုပ်ဆောင်တယ် သမဏတွေ ဝေဒ ကို အယုံအကြည်မရှိ ဘုရားသခင်ကို အယုံအကြည်မရှိ ကိုယ်တိုင်အားထုတ်ကြိုးစားမှ လွတ်မြောက်ခြင်းကို ရမယ်လို့ ယုံကြည်သူတွေ

ဖြစ်တယ်။ ဒါကြောင့် သိဒ္ဓတ္ထ ရဲ့ ဆုံးဖြတ်ချက်ဟာ ဗြဟ္မဏတစ်ယောက် အနေနဲ့ဆို အတော်လေး အစဉ်အလာကို တော်လှန်ခဲ့တဲ့ လုပ်ရပ်လို့ဆိုနိုင်တယ်။ ဗုဒ္ဓလက်ထက် က သာသနာထဲကို ဗြဟ္မဏတွေ အများအပြားဝင်ရောက်လာခြင်း ကလည်း အဲဒီ လူငယ်ထုရဲ့ တော်လှန်ရေး ကို မြင်နေရပါတယ်။ သိဒ္ဓတ္ထဟာ လည်း အဲဒီထဲ က တစ်ယောက်ပေါ့။

ဒါပေမဲ့ သူ့ ဆုံးဖြတ်ချက်ကို သူ့ဖခင် ဗြဟ္မဏကြီးက လက်ခံသဘောတူပါ့မလား။ သူ့အဖေကို သူ ဘယ်လို ရင်ဆိုင်မလဲ ကျော်ဖြတ်မလဲ ဆိုတာ စိတ်ဝင်စားစရာပါ။

# သိဒ္ဓတ္ထကို နားလည်ခြင်း (၃)။

ဗုဒ္ဓဝင်ထဲမှာတော့ ဘုရားလောင်းတောထွက်ခန်းကို ဖော်ပြတဲ့ အခါမှာ အလွန်ကြီးကျယ်ခမ်းနားစွာ ဖော်ကျူးကြတယ်။ ဘုရားလောင်း ကို စောင့်ကြပ်နေတဲ့ ရဲမက်တွေ နဲ့ တကွ နန်းတော်ကြီးတစ်ခုလုံး အိပ်မောကျနေချိန်မှာ ဘုရားလောင်း သိဒ္ဓတ္ထ ဟာ အပါးတော်မြဲအမတ် မောင်ဆန် ကို နိုးလို့ စီးတော်မြင်းကဏ္ဍကနဲ့ အတူ ကပိလဝတ်နပြည်တော်က တိတ်တဆိတ် ထွက်လာခဲ့တယ်။ နန်းတော်က မခွာခင်မှာ မွေးကင်းစ သားတော်ရာဟုလာနဲ့ ကြင်ယာတော် ယသောဓရာ တို့ ကို လည်း ချောင်းကြည့်မိခဲ့သေးတယ်။ နတ်ဒေဝတာတွေဟာ မြို့ရိုးတံခါးတွေ ကို ဖွင့်ပေးကြတယ်။ မြင်းခွာသံမကြားရအောင် နတ်တို့တန်ခိုးနဲ့ ကူညီကြပါတယ်။ မာရ်နတ်ရောက်လာပြီး ဘုရားလောင်းကို စကြဝတေးမင်း စည်းစိမ်နဲ့ ဆွဲဆောင်ပေမဲ့ မအောင်မြင်ပဲ အလောင်းတော်သိဒ္ဓတ္ထတို့ဟာ ထွက်လာကြတာ အနော်မာ သောင်ကမ်း အထိရောက်တယ်။ မောင်ဆန်နဲ့ ကဏ္ဍကကို ပြန်လွှတ်ပြီး ဆံတော်ပယ်လို့ ရဟန်းဘောင်ကို ဝင်ရောက်တယ်လို့ ဗုဒ္ဓဝင်စာပေတွေမှာ ကြီးကြီးကျယ်ကျယ်ရေးသားကြတယ်။ နတ်ဗြဟ္မာတွေ က ဆက်ကပ်တဲ့ သပိတ် သင်္ကန်းနဲ့ ပရိက္ခရာတွေ ကို ရရှိတယ်လို့လဲဆိုတယ်။ ဒါကြောင့် ကြီးမြတ်သောစွန့်လွှတ်ခြင်း= မဟာအဘိနိက္ခမ လို့တောင် အမည်ပေးကြပါတယ်။

ဝတ္ထုထဲက ဇာတ်ဆောင် သိဒ္ဓတ္ထ ရဲ့ တောထွက်ခန်းကတော့ ဗုဒ္ဓအလောင်းတော်လိုမခမ်းနားမကြီးကျယ်ပါဘူး။ ဒါပေမဲ့ သိဒ္ဓတ္ထ ဟာ တိတ်တဆိတ်ထွက်ခွာသွားတာမျိုးမဟုတ်ပဲ ဖခင်ရဲ့ ခွင့်ပြုချက်ကို မရ-အရ တိုက်ပွဲဝင်ပြီးတော့ ရယူခဲ့တာ ဖြစ်တယ်။ ဟိန္ဒူယဉ်ကျေးမှုမှာ ဘဝ ကို လေးပုံပုံလို့ တာဝန်သတ်မှတ်ထားတယ်။ အာရှရမ် စနစ်လို့ ခေါ်ပါတယ်။ အထူးသဖြင့် အာရှရမဥပနိသျှဒ်ေဝခနဆဓမ္မသုတ္တ နဲ့ နောက်ပိုင်း ဓမ္မသတ် ကျမ်းတွေမှာ ဒီ ဘဝအဆင့်တွေကို ဖော်ပြထားပါတယ်။ ပထမအာရှရမ်ကို = ဗြဟ္မာစာရီလို့ခေါ်တယ်။ ၂၄ နှစ်ထိ။ အိမ်ရာမထောင် မေထုန်ကိုရှောင်လို့ ဆရာဂုရုဆီမှာ ပညာသင်ယူရတဲ့ ကာလဖြစ်ပါတယ်။ ဒုတိယ အာရှရမ်ကို = ဂဟပတိ/ ဂဟဋ္ဌ စသဖြင့်ခေါ်ဆိုပြီး အသက် ၄၈ နှစ်အထိ သတ်မှတ်တယ်။ အိမ်ရာတည်ထောင်လို့ သားသမီးတွေ ပွားစီးရမဲ့ ကာလဖြစ်တယ်။ တတိယ အာရှရမ် ကို= ဝနပထ လို့ခေါ်ဆိုပြီး ၇၂ နှစ်အထိ သတ်မှတ်ထားတယ်။ ဒီ

ကာလမှာတော့ ဇနီးမောင်နှံဟာ ပိုင်ဆိုင်မှု နဲ့ လုပ်ငန်းတွေ ကို သားသမီးတွေ ကို အမွေပေးလို့ တောဝနေအရပ်မှာ မွေ့လျော်ရတဲ့ အချိန်ပဲဖြစ်တယ်။ နောက်ဆုံး အာရှရမ် ကိုတော့ သညာသီလို့ခေါ်ပါတယ်။ ၇၂ နှစ်ကျော်တဲ့ အခါ ဇနီးခင်ပွန်းတွေ အချင်းချင်းတောင် ခွဲခွာလို့ ဘဝနေဝင်ချိန်မှာ အမြင့်ဆုံး လွတ်မြောက်မှု မောက္ခတရားကို တစ်ကိုယ်တည်း ရှာမှီးရတဲ့ ကာလဖြစ်တယ်။ ဒီစနစ် မှာ ချွင်းချက်တစ်ခု က မည်သူမဆို ဗြဟ္မစာရီ အကျင့်ကို ကျင့်ပြီးလို့ ၂၄ နှစ်ကျော်ရင် သညာသီဘဝ ကို မိမိကိုယ်တိုင် ရွေးချယ်မှုနဲ့ ခံယူနိုင်တယ်ဆိုတာပါပဲ။

သိဒ္ဓတ္ထဇာတ်လမ်းထဲမှာ သိဒ္ဓတ္ထ သူ့မိသားစုကို စွန့်သွားဖို့ သူ့ဖခင်ထံမှာတောင်းဆိုချိန်မှာ သူ့အသက်ဘယ်လောက်ရှိပြီဆိုတာကိုတော့ ဖော်ပြမထားပါဘူး။ ဒါပေမဲ့ ဒီလို တောင်းဆိုနိုင်တဲ့ အသက်အပိုင်းအခြားရှိနေပြီလို့တော့ ခန့်မှန်းနိုင်တယ်။ ဒါကြောင့် သိဒ္ဓတ္ထဟာ သူ့ ရပိုင်ခွင့်အတွက် သူ့ဖခင် ကို တည့်တည့်ရင်ဆိုင်ပြီးတိုက်ပွဲဝင်ပါတော့တယ်။

(((သိဒ္ဓတ္ထသည် အခန်းတစ်ခု အတွင်းသို့ ဝင်သွား၏။ ထိုအခန်းထဲ၌ ဖခင်ဖြစ်သူသည်

ဖျာပေါ်မှာ ထိုင်နေသည်။ သိဒ္ဓတ္ထသည် သူ့ဖခင် နောက်ဘက်သို့ သွားပြီး သူရောက်ရှိနေကြောင်း

သူ့ဖခင် မသိမချင်း မတုန်မလှုပ်ရပ်နေသည်။ ဖခင် ဗြာဟ္မဏကြီးက မေးလိုက်သည်။

"သိဒ္ဓတ္ထလား၊ ဘာပြောချင်လို့လဲ"

သိဒ္ဓတ္ထက အဖြေပေးလေသည်။

"အဖေ ခွင့်ပြုရင် ကျွန်တော် တစ်ခုပြောချင်ပါတယ်။ ကျွန်တော် နက်ဖြန်ခါ အဖေ့အိမ်က ထွက်ခွာပြီး သမဏတွေဆီ လိုက်သွားတော့မယ်။ ကျွန်တော် သမဏတစ်ဦးဖြစ်ချင်တဲ့ စိတ်ဆန္ဒပြင်းပြနေပါတယ်။ အဖေ့အနေနဲ့ ကန့်ကွက်မှာမဟုတ်ဘူးလို့ ကျွန်တော် စိတ်ချယုံကြည်ပါတယ်"

ကြယ်တာရာများ ထို ပြတင်းပေါက်ငယ်ကို ဖြတ်ကျော်သွားသည်အထိ ဖခင် ဗြာဟ္မဏကြီး သည် စကားမပြော တုံဏှိဘော လုပ်နေ၏။ သားဖြစ်သူကလည်း လက်အုပ်ချီ မတုန်မလှုပ်ရပ်နေ၏။

ဖခင်ဖြစ်သူသည် ဖျာပေါ်၌ ကျောက်ရုပ်ကဲ့သို့ ထိုင်နေ၏။ ကြယ်တာရာများက ကောင်းကင်ပြင်၌ ဖြတ်ကျော်သွားကြပြီ။ ထိုနောက်မှ ဖခင်က ပြောလေသည်။

"ဒေါသနဲ့ စကားအော် ကျယ်ဟစ်ကျယ်ပြောတာ ဗြာဟ္မဏတွေ အနေနဲ့ မလျော်ပါဘူး။ ဒါပေမယ့် ငါ့နှလုံးထဲမှာ စိတ်မချမ်းမသာဖြစ်နေတယ်။ မင်းဆီက ဒီလိုတောင်းပန်တာမျိုး ငါ နောက်ထပ်မကြားချင်ဘူး"

ဖခင် ဗြာဟ္မဏကြီးသည် ဖြည်းညင်းစွာ ထလိုက်သည်။ သိဒ္ဓတ္ထကမူ လက်အုပ်ချီလျက် မတုန်မလှုပ်ပင် ရပ်မြဲရပ်နေ၏။ "မင်း ဘာစောင့်နေတာလဲ" ဖခင်က မေးလိုက်သည်။

"ကျွန်တော် ဘာစောင့်နေတယ်ဆိုတာ အဖေသိပါတယ်" သိဒ္ဓတ္ထက ပြန်ဖြေသည်။ )))

ဒီနေရာမှာ မိဘနဲ့ သားသမီး အားပြိုင်မှု ကို တွေ့ရပါတယ်။ ဒီအားပြိုင်မှုက နောက် ထောင်စုနှစ်တွေ ကြာအောင် ပြောင်းသွားလဲ မရှိးနိုင်တဲ့ အားပြိုင်မှုပါ။ ဖခင်ဖြစ်သူက သားကို သူဖြစ်စေချင်တဲ့ အိပ်မက်တွေ ရှိတယ်=သားဖြစ်သူ ရဲ့ ဘဝလမ်းကြောင်းရွေးချယ်မှု က သူ့ အိပ်မက်တွေ ကို တစ်စစီဖျက်ဆီးပစ်လိုက်တဲ့အခါ ဖခင်တစ်ယောက် ခံစားရမဲ့ဝေဒနာ ဟာ သိပ်ကို ပြင်းထန်လွန်းတယ်။ ပိုဆိုးတာက သား ဟာ ကိုယ့်အရိပ်အာဝါသ ကနေ ထာဝရ ခွဲခွာထွက်သွားတော့မယ်ဆိုတာကိုပဲ ဖြစ်တယ်။ သိဒ္ဓတ္ထတို့ ခေတ်ကာလမှာ တစ်ဦးနဲ့ တစ်ဦးဆက်သွယ်ဖို့ အလွန်ခက်တာ ကြောင့် သားထွက်သွားပြီးရင် ပြန်တွေ့ကြဖို့ဆိုတာလည်း မသေချာလှပါ။ ဒါကြောင့် ဖခင်ကြီးဟာ အပြင်းအထန် ပြန်လည် ခုခံနေပါတယ်။ သိဒ္ဓတ္ထ ကလည်း မရမက သူ့ရပိုင်ခွင့် ကို မလျော့တဲ့အားမာန်နဲ့ မတ်မတ်ရပ်ပြီး တောင်းဆိုနေခဲ့တယ်။ သူ့စိတ်က ပိုင်းဖြတ်ထားပြီမို့ သူနောက်ဆုတ်မှာ မဟုတ်တော့ဘူး။ အိပ်မပျော်နိုင်တဲ့ ဖခင်ကြီးကသာ သားတော်မောင်

လက်များလျှော့လေမလား မျှော်လင့်နိုးနိုးနဲ့ လာလာကြည့်ပေမဲ့ သိဒ္ဓတ္ထကတော့ မလျှော့ရေးချမလျှော့တမ်းပဲ တောင်းဆိုနေခဲ့တယ်။

((ဖခင်ဖြစ်သူသည် စိတ်လက်မချမ်းမသာဖြင့် အခန်းထဲမှထွက်ပြီး အိပ်ရာထဲ သွားလှဲအိပ်လိုက်လေသည်။ တစ်နာရီခန့်မျှ ကြာသွား၏။ သို့ရာတွင် ဗြာဟ္မဏကြီးသည် အိပ်မပျော်သဖြင့် ထပြီး အိမ်ထဲ၌ ဟိုလျှောက်သည် လျှောက်လုပ်နေသည်။ ထို့နောက် အိမ်ထဲက အပြင်ထွက်လိုက်သည်။ သူသည် ပြတင်းပေါက်ငယ်မှ ကြည့်လိုက်သောအခါ လက်အုပ်ချီပြီး မလှုပ်မယှက် ရပ်နေသော သိဒ္ဓတ္ထကို တွေ့မြင်ရသည်။ သူ၏ ဝါဖျော့သောအင်္ကျီသည် တလက်လက်ဖြစ်နေသည်။ နှလုံးထဲတွင် နာကျင်လာသဖြင့် ဖခင်ဗြာဟ္မဏကြီးသည် အိပ်ရာထဲတွင် ပြန်လှဲလိုက်ပြန်လေ၏။

နောက်တစ်နာရီ ကြာသွားပြန်၏။ သို့ရာတွင် ဗြာဟ္မဏကြီးသည် အိပ်၍မရသဖြင့် ထပြီး အိမ်ထဲတွင် ဟိုလျှောက်သည်လျှောက် လုပ်နေပြီးနောက် အိမ်အပြင် ထွက်သွားပြန်လေသည်။ ထိုအခါ လထွက်လာသည်ကိုတွေ့ရသည်။ ပြတင်းပေါက်ငယ်မှ ကြည့်လိုက်ပြန်ရာ လက်အုပ်ချီပြီး မလှုပ်မယှက်ရပ်နေသော သိဒ္ဓတ္ထကို တွေ့ရပြန်သည်။ သူ၏ ညို့သကျည်းပေါ်၌ လရောင် တလက်လက် တောက်နေသည်။ နှလုံးထဲတွင် နာကျင်လာသဖြင့် ဖခင်ဗြာဟ္မဏကြီးသည် အိပ်ရာထဲ သွားလှဲလိုက်ပြန်လေသည်။

ထို့နောက် တစ်နာရီအကြာတွင် တစ်ခါ၊ နှစ်နာရီအကြာတွင် တစ်ခါ ဖခင်ဗြာဟ္မဏကြီးသည် ထ ထလာပြီး ပြတင်းပေါက်ကနေ ကြည့်သည်။ လရောင်အောက်၌ လည်းကောင်း ကြယ်ရောင်အောက်၌လည်းကောင်း၊ အမှောင်ထဲ၌လည်းကောင်း မလှုပ်မယှက် ရပ်မြဲရပ်နေသော သိဒ္ဓတ္ထကို တွေ့ရ၏။ ထို့နောက် ဖခင်ဗြာဟ္မဏကြီးသည် တစ်နာရီပြီး တစ်နာရီ ချွတ်နင်းနင်းလာပြီး အခန်းထဲကို လှမ်းမျှော်ကြည့်၏။ ကျောက်ရုပ်ကဲ့သို့ မလှုပ်မယှက်သာလျှင် ရပ်နေသော သိဒ္ဓတ္ထကို တွေ့ရသည်။

သူ၏နှလုံးထဲတွင် ဒေါသ၊ သောက၊ ဘယ၊ ဒေါမနဿများ ပြည့်လျှံလာလေသည်။ ထို့နောက် မိုးမလင်းမီ ညဉ့်၏ အပြီးသတ် နာရီ၌ ဖခင်ဗြာဟ္မဏကြီးသည် တစ်ဖန်လာပြီး အခန်းထဲ ဝင်ကြည့်ပြန်လေသည်။ သားလုလင်မှာ နေရာမရွှေ့။ ရပ်မြဲရပ်နေသည်။ ဖခင်ဗြာဟ္မဏကြီးသည်

သားဖြစ်သူအား အရပ်အမောင်း ရှည်သူတစ်ယောက်လိုလို၊ လူစိမ်းသူစိမ်း တစ်ယောက်လိုလို ထင်မှတ်နေသည်။

"သိဒ္ဓတ္ထ၊ မင်း ဘာကိုစောင့်နေတာလဲ" ဖခင်က မေးလိုက်ပြန်လေ၏။

"ဘာကိုစောင့်နေတယ်ဆိုတာ _______အဖေ သိပါတယ်"

"မင်း မိုးလင်းအထိ၊ မွန်းတည့်အထိ၊ ညနေအထိ ဒီလိုပဲ ရပ်စောင့်နေမလို့လား"

"ဟုတ်ကဲ့၊ ကျွန်တော် ရပ်စောင့်နေတယ်"

"မင်း မောလာမှာပေါ့ သိဒ္ဓတ္ထ"

"ကျွန်တော်လား မောလာမှာ"

"မင်း အိပ်ပျော်သွားမှာပေါ့ သိဒ္ဓတ္ထ"

"ကျွန်တော် အိပ်ပျော်သွားဖို့ ဝေးပါသေးတယ်"

"မင်း သေသွားမှာပေါ့ သိဒ္ဓတ္ထ"

"ကျွန်တော်လား သေသွားမှာ"

"အင်း ပြီးတော့ ကိုယ့်ဖခင်စကားကို နားထောင်ရတာထက် သေလိုက်ရတာကို မင်းသဘောမကျဘူးလား"

"သိဒ္ဓတ္ထဟာ ဘယ်တော့မဆို ကိုယ့်ဖခင်ရဲ့ စကားကို နားထောင်ပါတယ်"

"ဒါဖြင့် မင်း ကိုယ့်အကြံကို လက်လျှော့လိုက်ပြီပေါ့"

"သိဒ္ဓတ္ထဟာ ကိုယ့်ဖခင်ပြောတာကိုပဲ လုပ်မယ်"

နေ၏ ရောင်ခြည်ဦးသည် အခန်းထဲ ဝင်ရောက်လာသည်။ သိဒ္ဓတ္ထ၏ဒူးများ အတန်ငယ် တုန်လာသည်ကို ဖခင်ဗြာဟ္မဏကြီးတွေ့ရ၏။ သို့ရာတွင် သိဒ္ဓတ္ထ၏ မျက်နှာ၌မူ စိုးစဉ်းမျှ တုန်လှုပ်ခြင်း မရှိ။ သူ၏ မျက်လုံးအစုံသည် ဝေးကွာလှသော အရပ်သို့ လှမ်းမျှော်ကြည့်နေ၏။ သိဒ္ဓတ္ထသည် မိမိနှင့်အတူ အိမ်၌ ကြာကြာနေနိုင်တော့မည် မဟုတ်ကြောင်း၊ မိမိတို့ကို စွန့်ခွာထားပြီးပြီ ဖြစ်ကြောင်း ဖခင်ဗြာဟ္မဏကြီး ရိပ်မိသွား၏။ )))

နောက်ဆုံးမှာတော့ ဖခင်ကြီးကပဲ အလျှော့ပေးလို့ လိုက်လျောခဲ့ရတယ်။ ဒါက သားတွေ နဲ့ အဖေတွေ ရဲ့ ဖြစ်နေကျ ဇာတ်လမ်းပဲ။ အရွယ်တိုင်နေပြီဖြစ်တဲ့ ပညာစုံနေပြီဖြစ်တဲ့ သားချောလူလှ သိဒ္ဓတ္ထ ကို မင်းဖြစ်ချင်တဲ့လမ်း မင်းဘာသာမင်းရွေးတော့လို့ပဲ ခွင့်ပြုခဲ့တယ်။ ဒါပေမဲ့ သံယောဇဉ်ကတော့ မကုန်နိုင်။ သားရေ= မင်း လမ်းခရီးပန်းတိုင် အောင်မြင်ရင်လည်း အဖေတို့ ကို လာမျှေဝဦး = မအောင်မြင်လဲ စိတ်မပျက်နဲ့ အဖေတို့ဆီပြန်လာပြီး အရင်လိုပဲ ဗြဟ္မဏ ကျင့်ဝတ်တွေ ကို တို့သားအဖတွေ ဆောက်တည်ကြတာပေ့ါလို့ မှာလိုက်တယ်။ ဒါ ဖခင်ရဲ့ မေတ္တာပဲ။ ရှင်တော်ဗုဒ္ဓ ကိုယ်တိုင်လည်း ဘုရားဖြစ်ပြီးတဲ့ အခါ အဖေ့ ကို သတိရတယ်။ ကာဠုဒါယီ က ဂါထာ၆၀ နဲ့ တင်လျှောက်လို့ မွေးရပ်မြေကို ပြန်ကြွပြီးတော့ အဖေ့ ကို အရဟတ္တမဂ်ဖိုလ်နဲ့ ကျေးဇူးဆပ်ခဲ့တာတွေ ရှိတယ်။

အဖေရဲ့ ခွင့်ပြုချက်ရသွားတဲ့ သိဒ္ဓတ္ထ ဟာ သမဏတွေဆီကို ထွက်လာခဲ့ပါတယ်။ သူ့သူငယ်ချင်း ဂေါဝိန္ဒလဲ သူနဲ့ မခွဲတမ်း အတူတူပါလာတာပေ့ါ။ သူတို့ နှစ်ယောက်ရဲ့ ဓမ္မခရီးဟာ ရှည်လျားတယ် ကြမ်းတမ်းတယ်။ တစ်လမ်းစီခွဲပြီးတော့ ကိုယ့်လမ်းကိုယ်လျှောက်ရတဲ့ အချိန်အထိ သွားခဲ့ကြရတယ်။ သူတို့ ရဲ့ ဓမ္မလမ်းခရီးမှာ လောကရဲ့ အသိအမြင်သစ်တွေက သူတို့ လူငယ်နှစ်ဦး ကို အသင့်စောင့်ကြိုလို့ နေပါတော့တယ်။

# သိဒ္ဓတ္ထကို နားလည်ခြင်း (၄)။

## အခန်း (၂) -သမဏတို့နှင့်အတူ

အိမ်ကို စွန့်ခွာလာခဲ့ကြတဲ့ သိဒ္ဓတ္ထ တို့ သူငယ်ချင်းနှစ်ယောက်ဟာ ညနေဘက်လောက်မှာ သမဏတွေ ဆီ ကိုရောက်သွားပါတယ်။ တပည့်အဖြစ်လက်ခံဖို့ တောင်းပန်တဲ့ အခါ သမဏတွေ က ဗြဟမဏလုလင်ပျို နှစ်ယောက်ကို သူတို့ ရဲ့ အသင်းအပင်းဝင် သမဏတွေ အဖြစ်လက်ခံလိုက်ကြပါတယ်။

သမဏကျင့်စဉ်နဲ့ သမဏလှုပ်ရှားမှုဟာ ရှေးဟောင်း အိန္ဒိယမှာ ဗုဒ္ဓလက်ထက်မတိုင်ခင်နှစ်ပေါင်းများစွာကတည်းက တည်ရှိနေခဲ့တာ ဖြစ်တယ်။ ရိဂ်ဗေဒထဲမှာ ကေဆင် Kesins လို့ခေါ်တဲ့ ဆံရှည်ထားပြီး တပကျင့်သူတွေ ယောဂီသူတော်စင်တွေ ရှိခဲ့တယ်ဆိုတာ ဖော်ပြထားတယ်။ ဘီစီ ၈ ရာစုလောက်က ပေါ်ထွက်ခဲ့တဲ့ ဗြိဟဒ်အာရညက ဥပနိသျှဒ် မှာ ရှေးအကျဆုံး သမဏ အသုံးအနှုန်းကိုတွေ့ရတယ်လို့ဆိုပါတယ်။ ရှေးခေတ်ဝေဒစာပေတွေမှာ ယာတိ၊ ရိရှိ၊ မုနိ စတဲ့ အမည်ကွဲတွေ နဲ့လည်းခေါ်ဆိုကြတယ်။ ဗုဒ္ဓမတိုင်ခင်ရှိခဲ့တဲ့ ဂျိန်း နဲ့ အာဇီဝက တက္ကဒွန်းတွေ ဟာလည်း ကိုယ်လုံးတီးနေထိုင်တဲ့ သမဏအနွယ်ဝင်တွေ ပါပဲ။ ဓမ္မပဒပါဠိတော်မှာတော့ = သမိတတ္တာ ပါပါနံ သမဏော တိ ပဝုစ္စတိ (မကောင်းမှုတွေ ကို ငြိမ်းအေးစေသူဟာ သမဏ ဖြစ်တယ်) ဆိုတဲ့ ဖွင့်ဆိုချက်တစ်ခုကို ဂါထာအမှတ် ၂၆၅ မှာ ဖော်ပြထားပါတယ်။ ဗုဒ္ဓစာပေတွေမှာ ဖော်ပြထားတဲ့ ခေတ်ပြိုင် တိတ္ထိဆရာကြီး ၆ ဦး ဆိုတာလည်း သမဏဂိုဏ်း ခေါင်းဆောင်တွေပါပဲ။

သမဏောဝါဟာရဟာ ဝေဒစာပေတွေမှာ ရှိခဲ့ပေမဲ့ ဝေဒယဉ်ကျေးမှုက ချွင်းချက်အနေနဲ့ ထားခဲ့တဲ့ လူထူးဆန်း တွေသာဖြစ်တယ်။ တစ်ချို့ပညာရှင်တွေ ကလည်း သမဏအကျင့်တွေဟာ အာရိယာန်မဟုတ်တဲ့ ရှေးလူတွေ ရဲ့ ဘာသာရေးကျင့်စဉ်တွေ အဖြစ်ဆိုကြပါတယ်။ အဲဒီအယူအဆတွေ က အာရိယာန်ယဉ်ကျေးမှုထဲကိုရောက်နေတာ

ဖြစ်တယ်လို့ ဆိုကြတယ်။ ဘယ်လိုပဲ ဖြစ်ဖြစ် သမဏတွေ ဟေဝဒအစဉ်အလာနဲ့ ယဇ်ပူဇော်မှုတွေ ထုံးတမ်းဓလေ့တွေကို ယုံကြည်သူတွေမဟုတ်ပဲ မိမိဘာသာမိမိ ကိုယ့်အားကိုယ်ကိုးပြီး သစ္စာတရား နဲ့ လွတ်မြောက်ခြင်းကို ရှာဖွေသူတွေ ဖြစ်တယ်။ မီးဟုန်းပူဇော်တာ မြစ်ထဲရေချိုးတာ မန္တန်ရွတ်တာလောက်နဲ့ ဘဝလွတ်မြောက်ရေး ပန်းတိုင်ကို မရောက်နိုင်ဘူးလို့ သူတို့က ရှုမြင်ကြတယ်။ လူဟာ တဏှာရာဂ ရဲ့ သားကောင်ဖြစ်တယ် တဏှာမာနတွေ ကို အခြေခံ လို့ အတ္တ က တည်ရှိနေရတယ်။ ဒါကြောင့် အတ္တ ကို ကျော်လွန်ချင်ရင် အတ္တ ရဲ့ ပါဝါရင်းမြစ် ဖြစ်တဲ့ တဏှာ ကို ချေးမှုန်းဖျက်ဆီးရမယ်လို့ သမဏတွေ ကခံယူကြပါတယ်။

တဏှာ ဟာ သဘာဝအတိုင်းကျင့်ကြံနေထိုင်တာဆိုရင် တဏှာဖျက်စီးရေးလမ်းစဉ်ဆိုတာ သဘာဝကို ဆန့်ကျင်ပြီး နေထိုင်ခြင်းပဲ ဖြစ်ပါတယ်။ ဒါက သမဏလမ်းစဉ်ရဲ့ အနှစ်သားလို့တောင်ဆိုနိုင်တယ်။ အထူးသဖြင့် ရုပ်ကိုယ်ခန္ဓာ သဘာဝ ရဲ့ တောင်းဆိုမှုတွေ ကို ဆန့်ကျင်တာပါပဲ။

= ဆာလောင်တဲ့ အခါ အစာ မစားဘူး။

= ရေဆာတဲ့ အခါ ရေမသောက်ဘူး။

= အိပ်နေချင်တဲ့ အခါ ထိုင်နေတယ်။

=ထိုင်နေချင်တဲ့အခါ မတ်တတ်ရပ်နေတယ်။

= ရပ်နေချင်တဲ့ အခါ ပြေးနေတယ်။

= အရိပ်ထဲမှာနေချင်တဲ့ အခါ နေပူထဲမှာ ရပ်နေမယ်။

= ချမ်းတဲ့အခါ နှင်းတောထဲ ကိုယ်လုံးတီးနေမယ်။

= အမိုးအောက်နေချင်တဲ့အခါ မိုးရွာထဲမှာ ရပ်နေမယ်။

= သက်သာအောင်နေချင်တဲ့အခါ ဆူးခင်းပြီး အိပ်မယ်။ စတဲ့ ခက်ခဲတဲ့ တပ အကျင့်တွေ ကို ကျင့်ပါတယ်။ တပ ဆိုတာ တဏှာကို လောင်ကျွမ်းခြင်းပါ။

သိဒ္ဓတ္ထ တို့ သူငယ်ချင်း နှစ်ယောက်ဟာ သမဏတွေ ဆီမှာ အဲဒီလို အကျင့်တွေ ကို ကျင့်ကြပါတယ်။ အတ္တကိလမထ လို့ခေါ်တဲ့ မိမိကိုယ်ကို ညှဉ်းဆဲခြင်းလို့ မြန်မာလို မှားယွင်းပြန်ဆိုထားတဲ့ အကျင့် ကို ကျင့်ကြပါတယ်။ တပ အကျင့်ဟာ မိမိကိုယ်ကို ညှဉ်းဆဲ တာမဟုတ်ပဲ မိမိမဟုတ်တဲ့ အတ္တမဟုတ်တဲ့ အနတ္တရုပ်ကိုယ်ခန္ဓာ ကို အလိုမလိုက် အကြိုက်မဆောင်ပဲ ဆန့်ကျင်ညှဉ်းဆဲ တာ သာ ဖြစ်ပါတယ်။ ဒီလို သဘာဝ ကို ကဏ္ဍကောစလုပ်တဲ့ အခါမှာ သိဒ္ဓတ္ထ ဟာ သဘာဝလွန်လူသားတစ်ယောက် အများနဲ့ မတူတော့တဲ့ လူလွန်လူသားတစ်ယောက်လို ဖြစ်လာခဲ့ရပါတယ်။

((သူသည် တစ်နေ့တစ်ကြိမ်သာ ထမင်းစားတော့၏။ ထမင်းကိုလည်း ဘယ်တော့မှ မချက်တော့။ သီတင်းနှစ်ပတ်အထိ ဥပုသ်စောင့်၏။ သီတင်းလေးပတ်အထိလည်း ဥပုသ်စောင့်၏။ သူ၏ခြေထောက်နှင့် ပါးများမှ အသားများ ကွယ်ပျောက်သွားကြပြီ။ သူ၏ ပြူးကျယ်သောမျက်လုံးကြီးများ၌ အိပ်မက်ဆန်း အိပ်မက်ထူးများ ထင်ထင်လာကြ၏။ သူ၏သေးသွယ်သောလက်ချောင်းများ၌ ရှည်လျားသော လက်သည်းကြီးများ ထွက်နေကြသည်။ သူ၏ မေးပေါ်၌

မွဲခြောက်ခြောက် ထူပျစ်ပျစ် မုတ်ဆိတ်မွေးများ ပေါက်နေ၏။ မိန်းမများကိုတွေ့ရသောအခါ သူ၏အကြည့်သည် စိမ်းစိမ်းကြီးဖြစ်နေသည်။ ဝတ်ကောင်း စားလှများ ဝတ်စားဆင်ယင်ထားကြသည့် မြို့သူမြို့သားတို့၏အကြားမှ ဖြတ်သွားရသော အခါမျိုး၌ သူသည် စက်ဆုပ်ရွံရှာလွန်းသဖြင့် မဲ့ရွဲ့ သွား၏။ သူသည် ကုန်ကူးသန်းရောင်းဝယ်နေကြသည့် သူဌေးသူကြွယ်များကို လည်းကောင်း၊ တောကစား ထွက်ကြသည့် မင်းညီမင်းသားများကို လည်းကောင်း၊ မသာအိမ်တွင် ပရိဒေဝမီး တောက်လောင်နေကြသူများကိုလည်းကောင်း၊ မိမိကိုယ်ကို ပုံအပ်နှင်းနေကြသည့် ပြည့်တန်ဆာမများကို လည်းကောင်း၊ ရောဂါသည်ကို ကုသနေသည့်ဆေးဆရာများကိုလည်းကောင်း၊ ပျိုးကြဲရမည့် နေ့ရက်ကို ရွေးကြသည့် ပုရောဟိတ်များကိုလည်းကောင်း၊ အချစ်ပလူးနေကြသည့် ချစ်သူများကိုလည်းကောင်း၊ ကလေးကို ချော့မြှူနေကြသည့်

မိခင်များကိုလည်းကောင်း မြင်တွေ့ရသည်။ ယင်း အရာအားလုံးသည် မျက်စိတစေ့တစောင်းစောင်းငွဲကြည့်ထိုက်သည့် အရာများပင် မဟုတ်ကြ။ အားလုံး အယောင်ဆောင်များဖြစ်ကြ၏။ အားလုံးအလိမ်အညာများ ဖြစ်ကြ၏။ အားလုံး စက္ခုစသော ဣန္ဒြေတို့၏ လှည့်စားမှု၊ သုခ၏လှည့်စားမှု၊ အလှ၏ လှည့်စားမှုဖြစ်၏။ အားလုံးမချွတ် ပျက်စီးယိုယွင်း ရမည်ဖြစ်၏။ ကမ္ဘာလောက၏အရသာသည် ခါး၏။ ဘဝသည် ဒုက္ခအတိ ဖြစ်၏။ ))

သိဒ္ဓတ္ထ ဟာ သူလိုချင်တဲ့ ငြိမ်းချမ်းမှု ကိုရရှိဖို့အတွက် ကိလေသာတရားတွေ ဆိတ်သုဉ်းသွားဖို့အတွက် သူ့ ကိုယ်ခန္ဓာ ကို ပြင်းပြင်းထန်ထန် ညှဉ်းပန်းနေပါတယ်။ တဏှာကုန်မှ အတ္တလည်းချုပ်ငြိမ်းမယ်ဆိုတဲ့ မျှော်လင့်ချက်နဲ့ သူဟာ သမဏတွေ ရဲ့ တပ ကို ကျင့်နေခဲ့တယ်။ ဒါဟာလည်း ဘုရားလောင်းသိဒ္ဓတ္ထ ဒုက္ကရစရိယကျင့်ခဲ့ရတဲ့ ပုံရိပ်ကို နမူနာယူ ရေးသားထားတယ်လို့ မြင်ပါတယ်။ မိမိ ကျင်ကြီးကျင်ငယ်ကို ပြန်စားခဲ့ရလောက်အောင် ကျင့်ခဲ့တဲ့ ဘုရားလောင်းရဲ့ ဒုက္ကရစရိယာလောက်တော့ ပြင်းထန်မှု မရှိတာကိုတွေ့ရပါတယ်။ အတ္တချုပ်ငြိမ်းမှလည်း အတ္တကိုကျော်လွန်နေတဲ့ လောက ရဲ့ အလျှို့ဝှက်ဆုံး သစ္စာတရားကို မြင်သိနိုင်မှာ ဖြစ်လို့ သိဒ္ဓတ္ထ ဟာ အတ္တကိလမထာ အကျင့်တွေ ကို အားထုတ်လို့နေခဲ့ပါတယ်။

((သိဒ္ဓတ္ထသည် ခြစ်ခြစ်တောက် နေပူကျဲတဲကြီးထဲ၌ ရေကလည်း ငတ်၊ အခံရလည်း ခက်ခက်ဖြင့် ငြိမ်သက်စွာ မတ်တတ်ရပ်နေသည်။ ရေငတ်ခြင်းနှင့် အခံရခက်ခြင်းကို သတိမေ့ သွားသည်အထိ မတ်တတ်ရပ်နေသည်။ သူသည် မိုးရွာကြီးထဲ၌ မတုန်မလှုပ်ရပ်နေသည်။

သူ၏ဆံပင်များမှ ထုံကျဉ်နေသော ပခုံးအပေါ်သို့လည်းကောင်း၊ ထုံကျဉ်နေသော တင်ပါးနှင့် ခြေထောက်ပေါ်သို့လည်းကောင်း မိုးရေများ တစ်စက်စက် ကျနေသည်။ ယောဂီသည် သူ၏ပခုံးနှင့် ခြေထောက်များ အထုံအကျဉ်ရပ်သွားသည်အထိ မတ်တတ်ရပ်နေသည်။ ပခုံးနှင့် ခြေထောက်များ မလှုပ်တော့သည်အထိ မတ်တတ်ရပ်နေသည်။ သူသည် ဆူးများအပေါ်၌ ငြိမ်သက်စွာ အိပ်နေသည်။

နာကျင်လှသော အရေးပြားမှ သွေးတစ်စက်စက်ကျနေသည်။ ပြည်ဖြစ်လာသည်။ သွေးမကျတော့သည်အထိ မစူးရှ မနာကျင်တော့သည့် အထိ သူသည် တုံးလုံးပင်ဖြစ်နေသည်။ ))

ဟက်စ်ရဲ့ အရေးအသားတွေ မှာ သိဒ္ဓတ္ထ ဟာ တပကျင့်စဉ်တွေ ကိုသာမက မိမိကိုယ်ခန္ဓာကို နိုင်နင်းအောင် ထိန်းချုပ် ရတဲ့ ယောဂကျင့်စဉ်တွေ ကို အားထုတ်ခဲ့တယ်ဆိုတာကိုလည်း ဖော်ပြထားတာတွေ့ရပါတယ်။ ပရဏာယာမ လို့ ခေါ်တဲ့ အသက်လေထဲမှာ ပါတဲ့ ပရာဏဓာတ်ကို ထိန်းချုပ်တာ နှလုံးခုန်ချက်ကို ထိန်းချုပ်တာ တွေ အပြင် တိဗက်ဗုဒ္ဓဘာသာ မှာ ရှိတယ့် ပိုးဝကျင့်စဉ်/ Powa Practice လို့ခေါ်တဲ့ ဝိညာဉ်ခန္ဓာ ကို ရုပ်ကိုယ်ကောင်ကနေ ခွဲထုတ်ပြီး အဝေးကို ပစ်လွှတ်တဲ့ ကျင့်စဉ်တွေ ကို ပါ အားထုတ်ခဲ့တယ်ဆိုတာ ဖော်ပြထားပါတယ်။ သိဒ္ဓတ္ထ ရဲ့ စိတ်ဝိညာဉ်ဟာ ပြင်ပသဘာဝလောကကြီး နဲ့ ပေါင်းစပ်လို့သွားပြီး သဘာဝတရားထဲ က အတွေ့အကြုံအဖြစ်အပျက်တွေ ဒုက္ခဝေဒနာတွေ ကို ပါ ခံစားလာရတယ်။ ဒီနည်းနဲ့ ကိုယ့် အတ္တ ကနေ ခဏ ရှောင်ခွာနိုင်ပေမဲ့ နောက်ဆုံးတော့ သိဒ္ဓတ္ထ ဟာ သိဒ္ဓတ္ထ အနေနဲ့ ပဲ ပြန်သတိရလာခဲ့ရပြန်ပါတယ်။

((သိဒ္ဓတ္ထသည် တင်ပျဉ်ခွေထိုင်ပြီးလျှင် အသက်ရှူ လျော့ လုပ်လေသည်။ အသက်နည်းနည်း ရှူကြည့်သည်။ အသက်ရှူ ရပ်ကြည့်သည်။ ဝင်သက်ကို ရှူသည့်ခဏ၌ နှလုံးသွေးအခုန် ငြိမ်သက်သွားအောင် အလေ့အကျင့်ပြုလုပ်သည်။ နှလုံးသွေးအခုန်နည်းသွားအောင် အလေ့အကျင့် ပြုလုပ်သည်။ နှလုံးသွေးအခုန်ရပ်သွားသည်အထိ အလေ့အကျင့်ပြုလုပ်သည်။

သမဏကြီးများ၏ ညွှန်ကြားပြောပြချက်အရ သိဒ္ဓတ္ထသည် သမဏထုံးတမ်းစဉ်းလာ အားလျော်စွာ ကိုယ်ကာယကို ဒဏ်ထားကျင့်ခြင်း၊ ကမ္မဋ္ဌာန်းဘာဝနာ ပွားများခြင်းများကို ပြုလုပ်သည်။ ဥဖိုျင်းတစ်ကောင်သည် ဝါးရုံတောပေါ်မှ ပျံသန်းလာသည်။ သိဒ္ဓတ္ထသည် ဥဖိုျင်း၏ဝိညာဉ်ကို မိမိဝိညာဉ်ထဲသို့ သွတ်သွင်းလိုက်ပြီး တောနှင့်တောင်များပေါ်သို့ ပျံသန်းသွားသည်။ ဥဖိုျင်းတစ်ကောင်ဖြစ်သွားသည်။ ငါးများကို စားသည်။ ဥဖိုျင်း ဆာနည်းမျိုး ဆာလာသည်။ ဥဖိုျင်းစကားကို ပြောသည်။ ဥဖိုျင်းသေနည်းမျိုး သေသွားသည်။ လတာပြင်ပေါ်၌ သူသည် တောခွေး

အသေကောင်ကို တွေ့သည်။ သူ၏ဝိညာဉ်သည် တောခွေး အသေကောင်ထဲသို့ ဝင်လိုက်သည်။ သူသည် တောခွေးအသေကောင်ဖြစ်သွားသည်။

လတာပြင်ပေါ်၌ လဲကျသွားသည်။ ဖူးရောင်လာသည်။ ပုပ်ပွလာသည်။ ယိုယွင်း ပျက်စီးသွားသည်။ ခွေးအများက အပိုင်းပိုင်းအပြတ်ပြတ် ကိုက်ဖြတ်ပစ်လိုက်သည်။ လင်းတများက ချီယူသွားသည်။ အရိုးစုအရိုးပုံသာ ကျန်တော့သည်။ မြေကြီး၊ မြေမှုန်ဖြစ်သွားပြီး ပတ်ဝန်းကျင်နှင့် ရောနှောသွားသည်။ ထို့နောက် သိဒ္ဓတ္ထ၏ဝိညာဉ်သည် တစ်ဖန် ပြန်လာသည်။ သေဆုံးသည်။ ယိုယွင်းပျက်စီးသည်။ မြေကြီးနှင့် ရောနှောသွားသည်။ ဘဝစက်ရဟတ်၏ ဒုက္ခအပြည့်ဖြစ်သော အပတ်များကို တွေ့ကြုံသိရှိရသည်။ ဘဝစက်ရဟတ်၏ အပတ်ပြည့်သောအခါ၌ ဒုက္ခကင်းဝေးသော ထာဝရကာလ စတင်သောအခါ၌ သိဒ္ဓတ္ထသည် ချောက်ကမ်းပါး ကာဆီးနေရာဝယ်ရပ်လိုက်ရသော တောလိုက်မုဆိုးကဲ့သို့ မွတ်သိပ်ခြင်း အသစ်ဖြင့် ရပ်စောင့်နေသည်။ ))

# သိဒ္ဓတ္ထ ကို နားလည်ခြင်း (၅)။

သိဒ္ဓတ္ထဟာ အသိဉာဏ်ထက်မြက်သူဖြစ်လို့ သမဏ ဆရာကြီးတွေ ဆီကနေ ယောဂကျင့်စဉ်တွေကို ထူးထူးချွန်ချွန် တတ်မြောက်ခဲ့တယ်။ သူ့ရဲ့ ဣန္ဒြေတွေကို နိုင်နင်းလာတယ်။ ကောင်းကောင်းထိန်းချုပ်လာနိုင်တယ်။ စိတ်ကို အနှောင့်အယှက်ပေးနေတဲ့ သညာတွေ ကိုလည်း ပယ်ရှားနိုင်လာတယ်။ သူ့ရဲ့ အပွနာစျာန် ဝင်စားနိုင်စွမ်းဟာ ထက်မြက်လာလို့ သူ ဘာကိုပဲ တွေ့ကြုံတွေ့ကြုံ သူ့အာရုံ နဲ့ သူ့စိတ် ကို တစ်သားတည်းဖြစ်အောင် ဝသီဘော်နိုင်လာတယ်။ သူ့ အတ္တ ကို သူ့အာရုံထဲမှာ နှစ်မြုပ်ဖျောက်ဖျက်ကြည့်တဲ့ အခါ အတ္တကနေ ယာယီခဏတော့ လွန်မြောက်လို့သွားပေမဲ့ စျာန်စိတ်အာရုံပြတ်စဲသွားတဲ့ အခါမှာ သူ့ရဲ့ နဂို အတ္တနေရာကိုပဲ ပြန်ရောက်လို့ လာနေပါတယ်။ ဆာလောင်မှု တွေ နာကျင်မှုတွေ ကို စိတ်တန်ခိုးခွန်အားနဲ့ အနိုင်ရပေမဲ့လဲ အနိုင်ရမှုဟာ ကြာကြာမခံဘူး။ စိတ်တန်ခိုးပျက်ပြယ်သွားတာနဲ့ သူ့ရဲ့ အရင် ဆာလောင်မှုတွေ နာကျင်မှုတွေ က ပြန်လည်ရောက်ရှိလို့ လာတာပါပဲ။ ဒီလိုနဲ့ သိဒ္ဓတ္ထဟာ မဆုံးနိုင်တဲ့ ထပ်ကျော့သံသရာစက်ဝိုင်းထဲမှာ လည်ပတ်လို့ နေပါတယ်။

((သိဒ္ဓတ္ထသည် မိမိ၏ ဣန္ဒြေတို့ကို နှိပ်ကွပ်ပစ်သည်။ မိမိ၏ သညာကို ချိုးနှိမ်ပစ်သည်။ မိမိ၏အတ္တမှ အရာအထောင်သော နည်းအားဖြင့် လွတ်မြောက်သွားသည်။ သူသည် တိရစ္ဆာန်ဖြစ်သွားသည်။ တိရစ္ဆာန်အသေကောင် ဖြစ်သွားသည်။ ကျောက်ဖြစ်သွားသည်။ သစ်သားဖြစ်သွားသည်။ ရေဖြစ်သွားသည်။ အကြိမ်တိုင်း အခါတိုင်း၌ သူသည် အသက်ပြန်ရှင်လာသည်။ အတ္တ ပြန်ဖြစ်လာသည်။ ဘဝစက်ရဟတ်အတွင်း ပြန်လည် ကျရောက်လာသည်။ မွတ်သိပ်မှုဖြစ်လာသည်။ မွတ်သိပ်မှုကို အနိုင်ရသည်။ တစ်ဖန် မွတ်သိပ်မှုအသစ်ဖြစ်လာသည်။ သိဒ္ဓတ္ထသည် သမဏများထံမှ များစွာ သင်ကြားတတ်မြောက်ခဲ့ပြီ။ အတ္တကို ဖျောက်သည့် နည်းလမ်းများစွာကို သင်ကြားတတ်မြောက်သည်။ ဒုက္ခဝေဒနာကိုခံစားခြင်း၊ ဒုက္ခဝေဒနာကို အနိုင်ရခြင်း၊ ဆာလောင်ခြင်း၊ မွတ်သိပ်ခြင်း၊ မောပန်းခြင်းများမှ တစ်ဆင့် မိမိကိုယ်ကို ညှဉ်းပန်းနှိပ်စက်ခြင်း၊ လမ်းမတစ်လျှောက် လျှောက်သွားသည်။ ကမ္မဋ္ဌာန်းဘာဝနာ ပွားများ အားထုတ်ခြင်း၊ မိမိ၏ စိတ်နှလုံးအား အရိပ်အယောင် ထင်ခြင်းများမှ

လွတ်ကင်းစခြေင်းများ ပြုလုပ်ပြီး မိမိကိုယ်ကို ဒဏ်ထားခြင်း လမ်းမပေါ်လျှောက်သွားသည်။ သူသည် ယင်းလမ်းများမှ လည်းကောင်း၊ အခြားလမ်းများမှ လည်းကောင်း၊ လမ်းအသွယ်သွယ် လျှောက်သွားနည်းကို သင်ကြားတတ်မြောက်သည်။ အကြိမ်ရာထောင်များစွာ သူသည် မိမိအတ္တကို ဖျောက်ထားပြီး နေ့ရက်ပေါင်းများစွာ သုညဘဝဖြင့် နေထိုင်သည်။ ယင်းနည်းများဖြင့် သူသည် အတ္တကို ပယ်ထားသော်လည်း အပြီးသတ်၌မူ အမြဲမပြတ်ပင် အတ္တသည် သူ့ထံပြန်လာသည်။ သိဒ္ဓတ္ထသည် အကြိမ်ပေါင်းရာထောင် အတ္တမှပြေးထွက်သွားပြီး သုညအဖြစ်ဖြင့် နေသော်လည်း တိရစ္ဆာန်အဖြစ်၊ ကျောက်အဖြစ်ဖြင့် နေသော်လည်း အတ္တသို့ ပြန်ရောက်လာမည်မှာ မလွဲမရှောင်သာဖြစ်၏။ နေပူထဲမှာဖြစ်စေ၊ မိုးရွာထဲမှာ ဖြစ်စေ မိမိကိုယ်ကို တစ်ဖန်ပြန်တွေ့ရမည့် ခဏမှာ မလွဲမရှောင်သာဖြစ်၏။ အတ္တတစ်ဖန် ပြန်ဖြစ်လာရမည်ဖြစ်၏။ သိဒ္ဓတ္ထ တစ်ဖန်ပြန်ဖြစ်လာ ရမည်ဖြစ်၏။ ဒုက္ခအပြည့်ဖြစ်သော ဘဝစက်ရဟတ်၏ နှိပ်စက်မှုကို တစ်ဖန် ခံစားရမည်ဖြစ်၏။ )))

သိဒ္ဓတ္ထဟာ ဂရိဒဏ္ဍာရီထဲက ဆစ်ဆီဖပ် လို အဖြစ်ကိုကြုံနေရတယ်။ ဆစ်ဆီဖပ် ဟာ သူ့အပြစ်ဒဏ်အတွက် နတ်ဘုရားတွေ က အပြစ်ပေးတဲ့ အခါ လုံးဝန်းနေတဲ့ ကျောက်လုံးကြီးတစ်ခုကို တောင်စောင်းမတ်မတ် ကနေ တွန်းတင်ပြီးတောင်ထိပ်မှာ တည်နေစေအောင် လုပ်ရပါတယ်။ ကျောက်တုံးကြီးက တောင်ထိပ်ကိုရောက်တဲ့ အခါ တစ်ဘက်တောင်စောင်းကနေ လျှောကျသွားပြန်တော့ နောက်တစ်ခါ ပြန်တင် ပြန်လျှောကျ နဲ့ အဆုံးမရှိတဲ့ ပြစ်ဒဏ် ကို ခံနေရပါတယ်။ သိဒ္ဓတ္ထ ဟာလည်း သူ့ အတ္တနဲ့ တဏှာတွေ ကို ယောဂအကျင့် တပအကျင့်တွေ နဲ့ သတ်ဖြတ်ဖို့ ကြိုးစားပေမဲ့ သူ့အောင်မြင်မှုဟာ ခေတ္တခဏလောက်ပဲ ဖြစ်တယ်။ သိဒ္ဓတ္ထဟာ သူ့ ဆရာ သမဏတွေ ရဲ့ တရားကျင့်စဉ် အပေါ်မှာ သံသယဝင်လာခဲ့တယ်။ ဂေါဝိန္ဒ နဲ့ ဆွေးနွေးကြည့်တော့ ဂေါဝိန္ဒကတော့ သူ့သူငယ်ချင်း သိဒ္ဓတ္ထ ရဲ့ အောင်မြင်မှုတွေကိုပဲ အထင်ကြီးလို့နေခဲ့တယ်။ တစ်နေ့တော့ သူ့သူငယ်ချင်းဟာ မဟာသမဏကြီး တစ်ယောက် ဖြစ်လာမှာပဲလို့ ထင်နေတယ်။ အရင်ကလည်း သူ သိဒ္ဓတ္ထ ကို မဟာပဏ္ဍိတ်ကြီးတစ်ယောက် ဖြစ်မယ်လို့ ထင်ခဲ့တာမျိုး နဲ့ အတူတူပါပဲ။ သိဒ္ဓတ္ထ ကတော့ သမဏတွေ ရဲ့ နည်းတွေ အပေါ်မှာ အယုံအကြည်မရှိတော့ပဲ ဆေးမြီးတိုတွေ အဖြစ်ပဲ

မြင်နေခဲ့တယ်။ သမဏတွေမှမဟုတ် သာမန်အရပ်သူအရပ်သားတွေ ဟာလည်း ကိုယ့်နည်းနဲ့ ကိုယ် အတ္တ ကနေ ခေတ္တခဏ ရှောင်ပုန်းနိုင်ကြတာပဲလို့ သူကဆိုတယ်။

(((သိဒ္ဓတ္ထသည် တစ်ကိုယ်တည်း ပြောနေသကဲ့သို့ပင် ဖြည်းဖြည်း အေးအေးပင် ပြောနေသည်။ "ကမ္မဋ္ဌာန်းဘာဝနာ ပွားများတယ်ဆိုတာ ဘာလဲ။ ကိုယ်ကာယကို အလေးမပြု ဂရုမထားခြင်းဆိုတာ ဘာလဲ။ ဥပုသ်စောင့်ခြင်း ဆိုတာ ဘာလဲ။ အာနာပါဏ ကမ္မဋ္ဌာန်းစီးဖြန်းခြင်းဆိုတာ ဘာလဲ။ အဲဒါတွေအားလုံးဟာ မိမိကိုယ်က ထွက်ပြေးခြင်းဖြစ်တယ်။ အတ္တက ထွက်ပြေးခြင်းဖြစ်တယ်။ ကိုယ်ကာယရဲ့ ဝေဒနာက လွတ်ကင်းအောင်လုပ်တဲ့ ယာယီအစီအမံဖြစ်တယ်။ နာကျင်မှုနဲ့ ဘဝရဲ့ချွတ်ယွင်းမှု ပျောက်သွားအောင် လုပ်တဲ့ ယာယီကုစားချက်ဖြစ်တယ်။ အဲဒီလို ထွက်ပြေးတိမ်းရှောင်နည်းနဲ့ ယာယီကုစားနည်းမျိုးတော့ လှည်းမောင်းသမားများလဲပဲ လုပ်တတ်တာပဲ။

တည်းခိုးစခန်းမှာ ဆန်အရက်ကိုဖြစ်ဖြစ်၊ အုန်းရေအရက်ကိုဖြစ်ဖြစ် ခွက်ဆင့်သောက်ချလိုက်တာဟာ အဲဒီ နည်းမျိုးပဲ မဟုတ်လား။ အဲဒီအခါမှာ သူလဲပဲ ကိုယ့်အတ္တကို သတိမရတော့ဘူး။ ကိုယ့်ဘဝကို သတိမရတော့ဘူး။ ဘဝရဲ့ဒုက္ခနဲ့ ဘဝရဲ့ဝေဒနာဆိုတာကို မသိတော့ဘူး။ အဲဒီအခါမှာ သူဟာ ဒုက္ခက ယာယီလွတ်မြောက်မှုကို ခံစားရတယ်။ သေရည် အရှိန်တက်နေတဲ့အခါ သူလဲပဲ သိဒ္ဓတ္ထနဲ့ ဂေါဝိန္ဒတို့ ရှည်လျားကြာမြင့်လှတဲ့ လေ့ကျင့်ခန်းများနဲ့ မိမိတို့ ကိုယ်က လွတ်မြောက်အောင်လုပ်ပြီး သုညအဖြစ်နဲ့ နေတဲ့အခါမျိုးမှာ တွေ့တဲ့အရာမျိုးကို တွေ့တာပါပဲ။"

ဂေါဝိန္ဒ "သိဒ္ဓတ္ထကလဲ လှည်းမောင်းသမား မဟုတ်ဘူး။ သမဏတွေကလဲ အရက်သမား မဟုတ်ဘူးဆိုတာ သိလျက်နဲ့ မင်းဒီလိုပြောတယ်၊ အရက်သမားတစ်ယောက်ဟာလဲ ဒုက္ခက လွတ်မြောက်မှုရှိတယ်ဆိုတာ မှန်ပါတယ်၊ ယာယီအေးချမ်းမှုရှိတယ်ဆိုတာ မှန်ပါတယ်။ သို့ပေမယ့် သူ့အေးချမ်းမှု လွတ်မြောက်မှုဟာ တဒင်္ဂမျှသာ ဖြစ်တယ်၊ ခဏအတွင်းမှာ ပျောက်သွားပြီး နဂိုအတိုင်းပြန်ဖြစ်တာပဲ။

အရက်သောက်တဲ့အတွက် ပညာဉာဏ်လဲ ရင့်သန်မလာဘူး။ ဗဟုသုတလဲ တိုးမလာဘူး။ မြင့်ရာသို့လဲ ရောက်မလာဘူး”

သိဒ္ဓတ္ထက ပြုံးပြီး ပြန်ဖြေသည်။

“ငါ ဘယ်တော့မှ အရက်သမားမဟုတ်ဘူးဆိုတာ ငါသိတယ်။ သို့ပေမယ့် ငါ့လေ့ကျင့်ခန်းတွေနဲ့ ငါ့ကမ္မဋ္ဌာန်းစီးဖြန်းမှုတွေမှာ သိဒ္ဓတ္ထဆိုတဲ့ ငါဟာ တိုတောင်းလှတဲ့ အေးချမ်းမှုကိုသာ တွေ့ခဲ့ရတယ်။ အသိဉာဏ်နဲ့ နိဗ္ဗာန်နဲ့တော့ ဗိုက်ထဲမှာ ပဋိသန္ဓေတည်စ ကလေးငယ်လောက်ပဲ ငါလဲဝေးတာပဲ။ အဲဒါကို ငါ ကောင်းကောင်းနားလည်ပါတယ် ဂေါဝိန္ဒ”)))

သိဒ္ဓတ္ထ ရဲ့ သမဏလမ်းစဉ်အပေါ် စိတ်ပျက်အားလျော့မှု ဟာ တစ်နေ့ထက်တစ်နေ့ကဲလာပါတယ်။ သူငယ်ချင်းဂေါဝိန္ဒ ကတော့ မျှော်လင့်နေဆဲပဲ။ သူ့သူငယ်ချင်းဟာဖြင့် သမဏလမ်းစဉ်မှာ ကြောင်လိမ်လေ့ကားလို ရစ်ခွေပတ်ပြီး အထက်ကို တက်နေသူလို့ သူကမြင်နေတယ်။ ဒါပေမဲ့ သိဒ္ဓတ္ထ ကတော့ ဒီလမ်းစဉ်ဟာ အချီးနှီးပဲလို့ မြင်နေပါတယ်။ ဒီနေရာမှာ ဗုဒ္ဓ အလောင်းတော် သိဒ္ဓတ္ထ ဟာလည်း သူ့ဆရာတွေ ဖြစ်တဲ့ အာဠာရ နဲ့ ဥဒကတို့ ဆီမှာ တပည့်ခံပြီး လောကီသမာပတ်တွေ ကို အဆုံးတိုင်အောင် တတ်မြောက်ခဲ့ပေမဲ့ ဒီ အရူပဈာန်တွေ ဟာ ပြဿနာကို အပြီးသတ်ဖြေရှင်းနိုင်တာမျိုးမဟုတ်ပဲ ယာယီဖုံးကွယ်ပေးထားနိုင်တဲ့ အစွမ်းလောက်ပဲ ရှိတယ်လို့ မြင်ခဲ့တာမျိုး နဲ့ နှိုင်းယှဉ်ကြည့်လို့ရပါတယ်။ အလောင်းတော်ဟာ သူ့ဆရာတွေ ကို စွန့်ခွာလို့ ဒုက္ကရစရိယကို ၆ နှစ် ကျင့်ပေမဲ့လဲ ဒီ တပ လမ်းစဉ်ဟာလည်း သူလိုချင်တဲ့ နိဗ္ဗာန်ဆီ မရောက်ဘူးလို့ သိခဲ့ရတဲ့ အခါ နောက်ဆုံး စွန့်လွှတ်ခဲ့ရပြန်တာပါပဲ။

သိဒ္ဓတ္ထ ရဲ့ အမြင်မှာ သူ့ ဆရာသမဏတွေ ဟာ အသက် ၆၀ လောက်ရှိလည်း ဒီ ဒုံရင်းတရားထဲမှာ ပဲ မျောနေသူတွေ ဖြစ်တယ်။ သူတို့ သေချိန်အထိလည်း နိဗ္ဗာန်တရားကို သူတို့သိမြင်မှာမဟုတ်ဘူးလို့ သိဒ္ဓတ္ထ က သံသယဖြစ်နေပါတယ်။ ဒါကြောင့် သမဏတွေ ကို စွန့်ခွာလိုစိတ်က သူ့ထံမှာ ပြင်းပြင်းပြပြဖြစ်ပေါ်လို့နေပါတယ်။ လူတွကြေားထဲမှာ အသိပညာကို ရှာဖွေခဲ့ပေမဲ့ သူ ရရှိခဲ့တဲ့ အသိကတော့ လူတွေဟာ စိတ်ရဲ့ လှည့်စားမှုတွေထဲမှာပဲ သာယာပြီး နေနေကြတယ်ဆိုတဲ့ အမှန်တရားပါပဲ။

((သိဒ္ဓတ္ထက စိတ်မကောင်းခြင်းနှင့် ပြက်ရယ်ပြုခြင်း ရောနှောနေသည့် အသံဖြင့် ပြန်ပြောလေသည်။ ပျော့ပျောင်းသော သူ၏စကားတွင် ဝမ်းနည်းသံ ပါသလောက်ပင် သရော်သံ လည်း ပါနေသည်။

“မင်းနဲ့အတူ ကြာမြင့်စွာ လျှောက်လာခဲ့တဲ့ ဒီသမဏတွေရဲ့ လမ်းကိုတော့ မင်းမိတ်ဆွေ မကြာခင် စွန့်ရလိမ့်မယ် ဂေါဝိန္ဒ။ ငါ့ဆီမှာ မွတ်သိပ်မှုရှိနေတယ်။ ဒီသမဏတွေရဲ့လမ်းပေါ်မှာ ငါ့မွတ်သိပ်မှုဟာ လျော့နည်းမသွားခဲ့ဘူး။ ငါဟာ အခါခပ်သိမ်းပဲ အသိပညာအတွက် မွတ်သိပ်နေတယ်။

နှစ်ပေါင်းများစွာ ငါ ဗြာဟ္မဏတွေကို မေးခွန်းထုတ်လာခဲ့တယ်။ နှစ်ပေါင်းများစွာ ငါ ဝေဒကျမ်းဂန်များကို မေးခွန်းထုတ်လာခဲ့တယ် ဂေါဝိန္ဒ။ ငါ ကြွက်ကို မေးခွန်းထုတ်မိရင်၊ လူဝံကို မေးခွန်းထုတ်မိရင် ကောင်းချင်ကောင်းလိမ့်ဦးမယ်။ လူဟာ ဘာကိုမှမသိနိုင်ဘူးဆိုတဲ့အချက်ကို သိဖို့ရန်အတွက် ငါအချိန်အများကြီး အကုန်ခံခဲ့ရ တယ်။ အခုလဲ အဆုံးမသတ်သေးဘူး။ ငါယုံကြည်တဲ့ အချက်တစ်ခုရှိတယ် အရာဝတ္ထုတိုင်းရဲ့အနှစ်သာရထဲမှာ ငါတို့သိခြင်းလို့ မခေါ်နိုင်တဲ့၊ သိခြင်းမှအပဖြစ်တဲ့ အရာဝတ္ထုအချို့ရှိတယ် မိတ်ဆွေ။ တစ်ခုတည်းသော အသိပညာသာလျှင် ရှိတယ်။ အဲဒီအသိပညာဟာ နေရာအနှံ့မှာ ရှိတယ်။ အဲဒီအသိပညာဟာ အတ္တဖြစ်တယ်။ အဲဒီအသိပညာဟာ မင်းမှာလဲရှိတယ်။ ငါ့မှာလဲ ရှိတယ်။ သတ္တဝါတိုင်းမှာ ရှိတယ်။ ငါ တစ်နေ့တစ်ခြား ယုံကြည်လာတာကတော့ အဲဒီအသိပညာရဲ့အကြီးဆုံးရန်သူဟာ ငါတို့အသိပညာရှင်လို့ ခေါ်တဲ့အရာ ဖြစ်တယ်။ ငါတို့အသိပညာလို့ခေါ်တဲ့ အရာဖြစ်တယ်”)))

ဒီလိုပဲ စိတ်ပျက်ရင်း ဆက်ကျင့်ရင်းနဲ့ သိဒ္ဓတ္ထ တို့ နှစ်ယောက်သားဟာ သမဏတွေ နဲ့ အတူတူနေနေတာ ၃ နှစ်လောက်ကြာသွားတယ်။ တစ်နေ့မှာတော့ လောကမှာ ဗုဒ္ဓဘုရားရှင် ပွင့်နေပြီဆိုတဲ့ သတင်းစကား ကို သူတို့ ကြားရပါတယ်။ ဗုဒ္ဓဟာ ဆင်းရဲဒုက္ခအားလုံးကို ကျော်လွန်သူ တဏှာရာဂဟူသမျှကို အောင်နိုင်သူ ဘဝသံသရာစက်ကို ချိုးဖြတ်သူ ဖြစ်တယ်လို့ဆိုကြတယ်။ ဗုဒ္ဓ ရဲ့ နောက်လိုက်တွေကလည်း လူတန်းစားမျိုးစုံဖြစ်ပြီးတော့ တပည့်သာဝက

ရဟန်းတွေကလည်း အမြောက်အများ။ သူတို့ ဆရာသမဏကြီးကို ပြောပြတော့ သမဏကြီး က ဗုဒ္ဓ ကို သိပ်အထင်မကြီးပဲ တပအကျင့် ကို ဆက်မကျင့်နိုင်လို့ လက်လျော့သွားတဲ့ လူပေါ်ကျော့တစ်ယောက်လို့ ပဲ မြင်တယ်လို့ သူတို့ကို ပြောလိုက်တယ်။

ဒီတစ်ခါတော့ ဓမ္မလမ်းခရီးပြောင်းလဲလျှောက်ကြည့်ဖို့ စတင်ဆော်သြတာက ဂေါဝိန္ဒ ဖြစ်လို့နေတယ်။ ရွာထဲ က ဗြဟ္မဏတစ်ဦးအိမ်ကို သွားရင်နဲ့ အဲဒီ အိမ်မှာ ဗုဒ္ဓ နဲ့ တိုက်ရိုက်ဆုံတွေ့လာခဲ့ရတဲ့ မဂဓတိုင်းသား ဧည့်သည်တစ်ယောက်ကို သူတွေ့ရတယ်။ ဧည့်သည်က ဗုဒ္ဓ ကြည်ညိုစရာကောင်းပုံ နဲ့ သူ့ရဲ့ ဆန်းသစ်တဲ့ တရားဒေသနာတွေ အကြောင်းကို ပြောပြလိုက်တော့ ဂေါဝိန္ဒ က အတော်လေးစိတ်ဝင်စားလာခဲ့တယ်။ ဒါနဲ့ သူတို့ သမဏတွေ ကို စွန့်ပြီး ဗုဒ္ဓဆီမှာ တရားသွားနာမယ်လို့ ဂေါဝိန္ဒ ကဆိုပါတယ်။ သိဒ္ဓတ္ထကတော့ သိပ်ပြီး စိတ်အပါလှကြီးမဟုတ်တော့ဘူး။ သူက ဆရာသမားတွေ ကို ငြီးငွေ့လို့နေပြီ။ နည်းစနစ်တွေ ကျင့်စဉ်တွေ သင်ကြားမှုတွေ နဲ့ အမှန်တရားကို မသိနိုင်ဘူးလို့ လဲ သူကမြင်လို့နေပြီ။ ဒါပေမဲ့ သူငယ်ချင်းက စိတ်အားထက်သန်နေတော့ သိဒ္ဓတ္ထ ကလည်း လိုက်လျောပြီး အတူတူသွားကြမယ်လို့ ဆုံးဖြတ်ကြတယ်။ ဗုဒ္ဓ ရဲ့ တရားသစ်ကို သူတို့မြည်းကြည့်ရင် အကျိုးမနည်းလှဘူးလို့ထင်တယ်။ ဒါကြောင့် သမဏကြီး ကို ခွင့်တောင်းပြီး ဗုဒ္ဓထံ သွားကြဖို့ သိဒ္ဓတ္ထတို့ ကြိုးစားကြပါတော့တယ်။

(((ထိုနေ့၌ပင် သိဒ္ဓတ္ထသည် အကြီးဆုံးဖြစ်သော သမဏအား သူတို့ထွက်ခွာသွားတော့မည်ဆိုသည့် အကြောင်းကို ထုတ်ဖော်ပြောပြသည်။ သမဏကြီးအား သူသည် လူငယ်တစ်ဦး၊ တပည့်တစ်ဦးပီပီ ယဉ်ကျေးသိမ်မွေ့စွာ၊ ရိုသေလေးစားစွာ ထိုအကြောင်းကိုပြောပြသည်။ သို့ရာတွင် သမဏကြီးသည် လူငယ်နှစ်ဦး သူ့ထံမှ ထွက်ခွာသွားတော့မည် ဆိုသည့်အကြောင်းကို ကြားသိရသောအခါ ယမ်းပုံမီးကျ ဒေါသထွက်သွားပြီး လူငယ်နှစ်ဦးအား ဆူပူကြိမ်းမောင်းလေ၏။

ဂေါဝိန္ဒက အံ့အားသင့်သွား၏။ သို့ရာတွင် သိဒ္ဓတ္ထသည် ဂေါဝိန္ဒ၏ နားအနီးသို့ ကပ်ပြီး တိုးတိုးပြောလိုက်၏။

"ဒီ သမဏကြီးဆီက ငါဘာ သင်ကြား တတ်မြောက်ထားတယ်ဆိုတာ ငါ အခု သူ့ကို ပြောပြလိုက်မယ်"

သိဒ္ဓတ္ထသည် သမဏကြီးအနီးတွင် ကပ်ရပ်လိုက်သည်။ စိတ်ထဲက ဆုံးဖြတ်ချက်တစ်ခုကို ချလိုက်သည်။ သူသည် သမဏကြီး၏ မျက်စိထဲသို့ စူးစိုက်ကြည့်လိုက်သည်။ သမဏကြီးအား ညို့လိုက်သည်။ ပါးစပ်အဟောင်းသား ဖြစ်စေသည်။ သမဏကြီး၏ စိတ်ဆန္ဒကို အနိုင်ယူလိုက်သည်။

သမဏကြီးအား အလိုရှိသလို ပြုလုပ်ရန် အသံမထွက်ဘဲ အမိန့်ပေးလိုက်သည်။ သမဏကြီး ငြိမ်ကျသွား၏။ သူ၏ မျက်လုံးများသည် အရောင်တောက်နေသည်။ သူ့စိတ်တန်ခိုး စိတ်အင်အားသည် ခနော်ခနဲ့ ဖြစ်သွားသည်။ သူ့လက်ရုံးများသည် လျော့ကျသွားကြသည်။ သူသည် သိဒ္ဓတ္ထ၏ စိတ်အညို့ ခံရသဖြင့် မလှုပ်သာမလှည့်သာ ဖြစ်နေ၏။ သိဒ္ဓတ္ထ၏ အကြံအစည်များသည် သမဏကြီး၏ အကြံအစည်များကို လွှမ်းမိုးလိုက်သည်။ သမဏကြီးသည် သိဒ္ဓတ္ထ၏ အကြံအစည်များအတိုင်း လိုက်နာပြုလုပ် ရတော့၏။ အကြိမ်များစွာ ဦးခေါင်းကို ညွှတ်သည်။ ဆုမွန်ကို ပေးသည်။ လမ်းခရီးတွင် ခလုတ်မထိ ဆူးမငြိစေရန်လည်း အထစ်ထစ် အငေါ့ငေါ့ဖြင့် ဆုတောင်းရှာသည်။ လုလင်နှစ်ဦးသည် သမဏကြီးအား စိတ်ကောင်း စေတနာ ထားရှိသည့်အတွက် ကျေးဇူးတင်ကြောင်း ပြောပြကြသည်။ ထိုနောက် ပြန်လှန်အရိုအသေပြုပြီး ခွဲခွာလာခဲ့ကြ၏။

လမ်းခရီးတွင် ဂေါဝိန္ဒက ပြောလေသည်။

"သိဒ္ဓတ္ထ၊ မင်းဟာ ငါသိထားတာထက်ပိုပြီး သမဏတွေဆီက အများကြီး သင်ကြားတတ်မြောက်ထားတာပဲ။ အသက်အရွယ်ကြီးတဲ့ သမဏတစ်ယောက်ကို စိတ်ညို့ဖို့ရာ ဆိုတာ လွယ်တာမဟုတ်ဘူး။ ခက်တယ်။ အင်မတန်မှပဲ ခက်တယ်။ တကယ့်ကို ပြောတာပါ။ အကယ်၍ မင်း ဒီမှာသာ နေရင် မကြာခင် ရေပေါ်လျှောက်တဲ့ ပညာကိုလဲ တတ်မြောက်မှာပဲ"

သိဒ္ဓတ္ထက ပြန်ပြောသည်။

"ငါ ရေပေါ် မလျှောက်ချင်ပါဘူး။ အဲဒီအတတ်ပညာတွေ တတ်ပြီး သမဏတွေဟာ သူတို့ဘာသာ သူတို့ ကျေနပ်နေကြပါစေ"__)))

သိဒ္ဓတ္ထ သမဏကြီးဆီ က ခွင့်တောင်းပုံ နဲ့ သူ့ ဖခင်ကြီးထံ က ခွင့်တောင်းပုံတွေဟာ ဆင်တူပေမဲ့ ရင်ဆိုင်တဲ့ နည်းတွေ ကတော့ မတူဘူးဆိုတာ သတိထားမိတယ်။ ဖခင်ကြီးတုန်းကတော့ သိဒ္ဓတ္ထဟာ လူငယ်တစ်ယောက်အနေနဲ့ ကိုယ့်ရပိုင်ခွင့်ကို တိုက်ယူတာမျိုး နဲ့ ခေါင်းမာမာရပ်ခံကြိုးစားခဲ့တယ်။ သမဏကြီး နဲ့မှာတော့ ယောဂီ သိဒ္ဓတ္ထ ဟာ သူ့ ရဲ့ စိတ်တန်ခိုးစွမ်းရည်ကို အသုံးချပြီး အနိုင်ယူစေစားခဲ့တာကိုတွေ့ရတယ်။ ဒီ တန်ခိုးသိဒ္ဓိတွေ ကိုလည်း သူ အထင်မကြီးလို့ ပြောခဲ့ပါတယ်။ သူလိုချင်တာက ထာဝရ ငြိမ်းချမ်းမှု နဲ့ လောကကြီး ရဲ့ လျှို့ဝှက်ချက်ဖြစ်တဲ့ (အတ္တ) ကို နားလည်သိမြင်နိုင်တဲ့ ဉာဏ်ပညာသာ ဖြစ်တယ်။

ဒီတောင်းဆိုမှုတွေ ကို အသစ်စက်စက်ပွင့်ထွန်းလာတဲ့ ဂေါတမဗုဒ္ဓ က ရော သူ့အတွက် ဖြည့်ဆည်းပေးနိုင် ပါမလား။

# သိဒ္ဓတ္ထကို နားလည်ခြင်း (၆)။

အခန်း (၃)-ဂေါတမ

သိဒ္ဓတ္ထ တို့ သူငယ်ချင်း နှစ်ယောက်ဟာ သမဏတွေ ကို စွန့်ခွာပြီး ဗုဒ္ဓ ရှိရာ သာဝတ္ထိမြို့ ကို ရောက်လာခဲ့ကြတယ်။ အဲဒီအချိန်မှာ ဗုဒ္ဓရှင်တော်ဟာ ဇေတဝန်ကျောင်းတော်ကြီးမှာ ရဟန်းသံဃာတွေ နဲ့ အတူ သီတင်းသုံးနေထိုင်ပါတယ်။ မြို့သူမြို့သားတွေဟာ ရဟန်းသံဃာတွေ ကို သဒ္ဓာစိတ်ထက်သန်စွာနဲ့ ဆွမ်းလောင်းနေတာကို လည်းသူတို့ တွေ့ရတော့ သူတို့လည်း အိမ်တစ်အိမ်မှာ ဆွမ်းခံလိုက်တယ်။ ဆွမ်းရပြီးတဲ့ အခါ အိမ်ရှင်အမျိုးသမီး ကို ဗုဒ္ဓအကြောင်းမေးတော့ ဗုဒ္ဓ ဟာ အဝါရောင်သင်္ကန်းကို ဆင်မြန်းဝတ်ရုံပြီး လက်ထဲကသပိတ်ပိုက်ပြီး စကြ္ကန္ဒြေ လမ်းပေါ်မှာ ကြွသွားတာကိုလဲ မကြာခဏ ဖူးတွေ့ဖူးကြောင်း အိမ်တံခါးဝမှာ ဆွမ်းရပ်ပြီး ဆွမ်းအပြည့်နဲ့ သပိတ်ကိုပိုက်ပြီး ပြန်ကြွသွားတာကိုလဲ

တစ်ကြိမ်မက မြင်ဖူးတဲ့ အကြောင်းတွေ ပြန်ပြောပြတယ်။

ဒီလိုနဲ့ အမျိုးသမီးလမ်းညွှန်တဲ့အတိုင်း သိဒ္ဓတ္ထတို့ နှစ်ဦးဟာ ဇေတဝန်ကျောင်းကို ညဘက်ရောက်လာ ကြပါတယ်။ မိုးလင်းချိန်အထိ သူတို့ နားနေကြတယ်။ ရဟန်းတွေ ဥပသကာတွေ နဲ့ ကျောင်းတော်ကြီးဟာ စည်ကားနေတာကိုလည်း သူတို့တွေ့ရတယ်။ နေတက်လာချိန်မှာတော့ ရဟန်းတွေဟာ စီတန်းပြီးတော့ ဆွမ်းခံထွက်ဖို့ပြင်ကြလေတယ်။ အဲဒီရဟန်းတွေထဲမှာ အသွင်အပြင်ထူးခြားနေတဲ့ ရဟန်းတစ်ပါးကို သူတို့တွေ့လိုက်ရတဲ့ အခါ အဲဒီ ရဟန်းဟာ တခြားသူမဟုတ် သတင်းကြီးနေတဲ့ ရှင်တော် ဂေါတမဗုဒ္ဓပဲ ဖြစ်တယ်ဆိုတာကို သိဒ္ဓတ္ထက တပ်အပ်သိလိုက်ပါတယ်။

(((သိဒ္ဓတ္ထသည် ဗုဒ္ဓအား တွေ့လျှင် တွေ့ချင်း နတ်ဒေဝတာတစ်ဦးက ညွှန်ပြသည့်အလား ဗုဒ္ဓမှန်းသိရှိ သွား၏။ အဝါရောင်သင်္ကန်းကို ဝတ်ရုံလျက်၊ သပိတ်ကိုပိုက်လျက် နှိမ့်ချသော အမူအရာဖြင့် တည်ငြိမ်က္ကန္ဒြေစွာ ကြွသွားသော ဗုဒ္ဓကိုတွေ့မြင်ရသည်။

“ဟော ဟိုမှာကြည့်၊ အဲဒါ ဗုဒ္ဓပဲ”

သိဒ္ဓတ္ထသည် ဂေါဝိန္ဒအား ခပ်အေးအေးပင် ပြောပြလိုက်သည်။

ဂေါဝိန္ဒသည် အဝါရောင်သင်္ကန်းဝတ်ရုံထားသော ရဟန်းကို စူးစူးစိုက်စိုက် ကြည့်ရှုလိုက်သည်။ ထိုရဟန်းသည် အခြားသော အရာအထောင်ရဟန်းများနှင့် ဘာမျှမခြားပေ။ သို့ပင်ဖြစ်စေကာမူ ဂေါဝိန္ဒသည် ထိုရဟန်းအား ခဏအတွင်းမှာပင် ကွဲကွဲပြားပြား သိရှိသွားသည်။ မှန်ပါသည်။ သူပင်လျှင် ဗုဒ္ဓဖြစ်ပေသည်။ သမဏနှစ်ဦးတို့သည် ဗုဒ္ဓနောက်က လိုက်သွားပြီး ဗုဒ္ဓကို အကဲခတ်ကြ၏။

ဗုဒ္ဓသည် နှိုက်နှိုက်နဲနဲ စဉ်းစားဆင်ခြင်တော်မူရင်း တည်ငြိမ်ဣန္ဒြေရစွာဖြင့် သူ့လမ်းသူကြွတော်မူ၏။ သူ၏တည်ငြိမ်လျက်ရှိသော မျက်နှာတော်သည် ပြုံးလည်းမပြုံး။ မဲ့လည်းမမဲ့။

နှလုံးသားအတွင်း၌မူ ပြုံးယောင်ယောင် ပေါ်နေသည်ဟု ထင်ရသည်။ သူငယ်၏ ရိုးသားပြီး လျှို့ဝှက်သောအပြုံးမျိုးဖြင့် သူသည် စင်္ကြံဣန္ဒြေချလျက် တည်ငြိမ် ဣန္ဒြေရစွာ ကြွသွားတော်မူသည်။ သူသည် သင်္ကန်းကိုဝတ်ရုံလျက် အခြားသောရဟန်းများကဲ့သို့ပင် ကြွသွားတော်မူသည်။ သို့ရာတွင် သူ၏မျက်နှာ၊ သူ၏ခြေလှမ်း၊ မျက်လွှာချထားသော သူ၏ငြိမ်းချမ်းသောအကြည့်၊ အောက်သို့ချထားသော သူ၏ငြိမ်းချမ်းသော လက်မောင်းနှင့်တကွသော လက်ချောင်းများသည် ငြိမ်းချမ်းမှုကို ပြောဆိုနေကြသည်။ ပြည့်စုံမှုကို ညွှန်ပြနေကြသည်။ ၎င်းတို့သည်ဘာကိုမျှ မလိုတော့ပေ။ ဘာကိုမျှ အတုမယူတော့ပေ။ တည်မြဲသည့်ငြိမ်းချမ်းမှု၊ မှေးမှိန်မသွားသည့် အလင်းရောင်၊ ကျိုးပဲ့ပျက်စီးမသွားသည့် ငြိမ်းချမ်းရေး ကိုသာလျှင် လှစ်ပြနေကြသည်။ ယင်းသို့လျှင် ဂေါတမဗုဒ္ဓသည် မြို့အတွင်းသို့ ဆွမ်းခံကြွသွားတော်မူ၏။ သမဏနှစ်ဦးမှာမူ ကိုယ်ဟန်လက္ခဏာ၏ ငြိမ်းချမ်းမှုကိုလည်းကောင်း၊ လိုလားတောင့်တာခြင်းလည်း မရှိ။ အာသာဆန္ဒလည်း မရှိ၊ ဟန်ဆောင်ခြင်းလည်း မရှိ၊ အလင်းရောင်နှင့် ငြိမ်းချမ်းမှုနှစ်ခုသာလျှင်ရှိသော ရုပ်ပုံတော်၏တည်ငြိမ်မှုကိုလည်းကောင်း ကြည့်ပြီး ဗုဒ္ဓမှန်း သိရှိနားလည်သွားကြသည်။ )))

ဗုဒ္ဓ ကို ဖူးတွေ့ရတဲ့ အခါ ဂေါဝိန္ဒ ကတော့ အရမ်းကို စိတ်လှုပ်ရှားနေပြီး ထူးခြားဆန်းသစ်တဲ့ တရားတွေ ကြားနာရတော့မယ်

ဆိုပြီးတော့ ပျော်ရွှင်နေတယ်။ သိဒ္ဓတ္ထကတော့ တရားသဘောတွေ အယူအဆရေးရာတွေထက် ဗုဒ္ဓ ရဲ့ ပုဂ္ဂိုလ်အရည်အသွေး ကိုပဲ ပိုလို့စိတ်ဝင်စားနေခဲ့တယ်။ မြင့်မြတ်တဲ့ သူတော်စင်ယောဂီ ရဲ့ အရှိအဝါတွေဟာ ဗုဒ္ဓရှင်တော် ရဲ့ သဏ္ဍာန်မှာ ထွန်းလင်း တောက်ပလို့နေပါတယ်။

(((သို့ရာတွင် သိဒ္ဓတ္ထသည် ဂေါတမ၏ ဦးခေါင်းကို လည်းကောင်း၊ ပခုံးတော်ကိုလည်းကောင်း၊ ခြေတော်ကိုလည်းကောင်း၊ တည်ငြိမ်သောလက်တော်ကို လည်းကောင်း၊ အာရုံစိုက်ပြီးကြည့်ရှုနေ၏။ ဗုဒ္ဓ၏ လက်ဆစ်တော်ဟူသမျှ၌ အသိဉာဏ်စုနေပြီး ၎င်းတို့သည် သစ္စာတရားကို ပြောပြနေသည်။ အသက်ရှူနေသည် အရောင်လက်နေသည်ဟူ၍ပင် သိဒ္ဓတ္ထ အထင်ရှိနေသည်။ ဤလူသား ဤဗုဒ္ဓသည် အမှန်စင်စစ်အားဖြင့် မြင့်မြတ်သော ပုဂ္ဂိုလ်ဖြစ်သည်။ သိဒ္ဓတ္ထသည် ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်အား ဘယ်တုန်းကမှ ယခုလောက် မလေးစားခဲ့။ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်အား မည်သည့်အခါကမျှ ယခုလောက်မချစ်ခဲ့။ )))

သမဏနှစ်ဦးတို့ဟာ မြို့အတွင်းသို့ကြွသွားတဲ့ ဗုဒ္ဓနောက်သို့ ခရီးအတန်ကြာ လိုက်သွားကြပြီးတဲ့နောက်မှာ ကျောင်းတော်ဆီကို တိတ်တဆိတ်ပင် ပြန်လာကြပါတယ်။ ဂေါတမဗုဒ္ဓပြန်ကြွလာတာကို သူတို့ တွေ့ရသလို ဗုဒ္ဓဟာ တပည့်ရဟန်းများနှင့် ဝိုင်းပြီးဆွမ်းဘုဉ်းပေးသည်ကို သူတို့မြင်ရတယ်။ ဆွမ်းဘုဉ်းပေးပြီးတဲ့ အခါ ဗုဒ္ဓဟာ သရက်ဥယျာဉ်ရိပ်သို့ ကြွသွားတော်မူသည်ကိုလည်း သူတို့ တွေ့ရတယ်။

ညချမ်းကာလရောက်တဲ့ အခါ ပရိသတ် ကို ဗုဒ္ဓ က တရားရေအေး အမြိုက်ဆေးတိုက်ကျွေးပါတယ်။ ဘဝရှင်သန်နေမှု ဟာ ဒုက္ခဖြစ်တဲ့ အကြောင်း အိုခြင်းနာခြင်းသေခြင်းဆိုတဲ့ ဆင်းရဲခြင်းတွေဟာ ဘဝ ရဲ့ အနှစ်သာရ ဖြစ်တဲ့ အကြောင်း ဘဝ ကို အဖန်တလဲလဲ ဖြစ်စေတဲ့ အကြောင်းတရားဟာ တဏှာဖြစ်ကြောင်းနဲ့ တဏှာချုပ်ငြိမ်းဖို့ အတွက် ကျင့်ကြံရတဲ့ မဂ္ဂင်လမ်းအကျင့်တရားတွေ အကြောင်းကို ဗုဒ္ဓ က ဟောပြပါတယ်။ တရားပွဲပြီးတဲ့ အခါ ပရိသတ်ထဲကနေ ကြည်ညို သဒ္ဓာတရားထက်သန်တဲ့ လူငယ်လူရွယ်တွေဟာ ရဟန်းပြုကြပါတယ်။ ဂေါဝိန္ဒ တစ်ယောက်လည်း ဗုဒ္ဓ ရဲ့ တရားတော်အပေါ်မှာ ကြည်လင်လေးနက်တဲ့

သဒ္ဓါတရား ဖြစ်ပေါ်လာတာမို့ သူလည်း ရဟန်းပြုပြီး ဗုဒ္ဓ ရဲ့ နောက်လိုက်သာဝကအဖြစ် ကျင့်ကြံတော့မယ်လို့ ဆုံးဖြတ်တဲ့ အကြောင်း သူငယ်ချင်း သိဒ္ဓတ္ထ ကို ပြောပြတယ်။ သိဒ္ဓတ္ထ လည်း သူ့လို ပဲ ဗုဒ္ဓထံမှာ ရဟန်းပြုဖို့ အတွက် ပြောပါတယ်။

ဒီအခိုက်အတန့်လေးဟာ သိဒ္ဓတ္ထအတွက် အံ့ဩခြင်းကြီး ဖြစ်ရတဲ့ အခိုက်အတန့်ပါပဲ။ ဂေါဝိန္ဒ ကို သူ့အရိပ်အဖြစ် သူ့အပါးတော်မြဲ သူငယ်ချင်းတစ်ယောက်အဖြစ်ပဲ မှတ်ယူထားခဲ့တယ်။ သူလျှောက်တဲ့လမ်းကိုပဲ ဂေါဝိန္ဒကလည်း လိုက်လျှောက်မယ်လို့ ထင်ထားပေမဲ့ ဗုဒ္ဓ နဲ့ တွေ့တဲ့ အခါ ဂေါဝိန္ဒဟာ သူ့နောက်လိုက်မဟုတ်တော့ပဲ ဗုဒ္ဓ ရဲ့ နောက်လိုက်အဖြစ်ကို ရဲရဲရင့်ရင့် ရွေးချယ်လိုက်တာကိုတွေ့လိုက်ရတဲ့ အခါ သိဒ္ဓတ္ထဟာ ဝမ်းသာ ဝမ်းနည်းဖြစ်လို့ သွား ပါတယ်။

(((ဂေါဝိန္ဒ၏ စကားကိုကြားရသောအခါ သိဒ္ဓတ္ထသည် အိပ်ရာမှ လန့်နိုးသွားသကဲ့သို့ ဖြစ်သွား၏။ သူသည် ဂေါဝိန္ဒ၏ မျက်နှာကို အတန်ကြာစွာ ကြည့်နေသည်။ ထို့နောက် ဖြည်းညင်းစွာ ပြောသည်။ သူ၏အသံ၌ လှောင်ပြောင် သရော်သည့်အရိပ်အငွေ့ မပါရှိပေ။

“ မိတ်ဆွေ ဂေါဝိန္ဒ၊ မင်းဟာ ရှေ့တစ်ဆင့်ခြေလှမ်းလိုက်ပြီ။ မင်းကိုယ့်လမ်း ကိုယ်ရွေးလိုက်ပြီ။ မင်းဟာ ယနေ့အထိ အမြဲမပြတ်တဲ့ ငါ့မိတ်ဆွေ ဖြစ်လာခဲ့တယ်။ မင်းဟာ ဘယ်တော့မဆို ငါခြေလှမ်းပြီးတဲ့ နောက်မှသာ ခြေလှမ်းကို လှမ်းတယ်။ ဂေါဝိန္ဒတစ်ယောက်ဟာ သိဒ္ဓတ္ထမပါဘဲ သူ့ယုံကြည်ချက်၊ သူ့ကိုယ်ပိုင်ဉာဏ်နဲ့ ခြေတစ်လှမ်း လှမ်းမှ လှမ်းပါ့မလားလို့ ငါ မကြာခဏ စဉ်းစားမိခဲ့တယ်။ အခု မင်းဟာ ပြည့်ဝတဲ့ လူတစ်ယောက် ဖြစ်သွားပြီ။ မင်း ကိုယ့်လမ်းကို ကိုယ်ရွေးချယ်လိုက်ပြီ။ မင်း အဲဒီ လမ်းတစ်လျှောက်ကို အဆုံးတိုင် လျှောက်သွားနိုင်ပါစေ၊ နိဗ္ဗာန်သို့ ရောက်နိုင်ပါစေလို့ ငါ ဆုတောင်းလိုက်ပါတယ်”

ထိုအချိန်အထိ အဓိပ္ပါယ်ကို အပြည့်အဝ နားမလည်သေးသော ဂေါဝိန္ဒသည် စိတ်အား ထက်သန်စွာဖြင့်ပင် ထပ်ဆင့်ပြောပြန်လေသည်။

“ပြောစမ်းပါဦး မိတ်ဆွေ၊ မင်းလဲပဲ ဗုဒ္ဓရဲ့လမ်းစဉ်မှ အခြားတစ်ပါး ဘယ်လမ်းစဉ်ကိုမှ မလိုက်နာတော့ဘူး မဟုတ်လား”

သိဒ္ဓတ္ထသည် ဂေါဝိန္ဒ၏ ပခုံးပေါ်တွင် မိမိ၏လက်ကို တင်လိုက်လေ၏။ "ငါ့ဆုတောင်းမေတ္တာကို ကြားရပြီမဟုတ်လား ဂေါဝိန္ဒ။ ငါ တစ်ခါ ထပ်ပြောပါဦးမယ်။ မင်း ကိုယ့်လမ်းကိုယ့်ခရီးကို အဆုံးတိုင်သွားနိုင်ပါစေ၊ နိဗ္ဗာန်သို့ ရောက်ရှိနိုင်ပါစေလို့ ငါ ဆုတောင်းလိုက်ပါတယ်"

ထိုအခါ ဂေါဝိန္ဒသည် မိတ်ဆွေသိဒ္ဓတ္ထ သူ့ကို ခွဲခွာသွားတော့မည်ဆိုသည့်အကြောင်းကို သိရှိနားလည်သွား၏။ သို့ဖြစ်၍ မျက်ရည်များစီးကျလာ၏။

"သိဒ္ဓတ္ထ"

ဂေါဝိန္ဒသည် ကြေကွဲဝမ်းနည်းစွာဖြင့် ခေါ်လိုက်သည်။

သိဒ္ဓတ္ထက ချစ်ခင်ကြင်နာစွာဖြင့် ဂေါဝိန္ဒအား ပြန်ပြောလေသည်။

"မင်း အခု ဗုဒ္ဓရဲ့တပည့်ရဟန်း ဖြစ်နေပြီဆိုတာကို မေ့မသွားပါနဲ့ မိတ်ဆွေ။ မင်းဟာ အိမ်ရာနဲ့မိဘများကို စွန့်လိုက်ပြီ။ အမျိုးအနွယ်နဲ့ စည်းစိမ်ဥစ္စာကိုလဲစွန့်လိုက်ပြီ။ မိမိရဲ့ စိတ်ဆန္ဒနဲ့ မိမိရဲ့ အပေါင်းအသင်း မိတ်ဆွေခင်ပွန်းကိုလဲ စွန့်လိုက်ပြီ။ အဲဒီလို စွန့်လိုက်ခြင်းဟာ တရားအဆုံးအမပင် ဖြစ်တယ်။ ဂေါတမဗုဒ္ဓရဲ့ အလိုဆန္ဒဖြစ်တယ်။ မင်း ကိုယ်တိုင် လိုလားနေတဲ့ အရာဖြစ်တယ် ဂေါဝိန္ဒ။ နက်ဖြန်ကျရင် ငါ မင်းကို ခွဲသွားတော့မယ်")))

အဲဒီ အခိုက်အတန့်ဟာ ဂေါဝိန္ဒ နိုးကြားသလို သိဒ္ဓတ္ထ လည်း နိုးကြားသွားတဲ့ အခိုက်အတန့်လို ဆိုနိုင်ပါတယ်။ သူ အချစ်ဆုံးသူငယ်ချင်းက သူ့လမ်းသူရွေးချယ်သွားတဲ့ အခါမှာ လူဟာ နောက်ဆုံးတော့ အထီးတည်းပဲ ဆိုတဲ့ သစ္စာတရား တစ်ခု ကို သိဒ္ဓတ္ထဟာ သိရှိခွင့်ရလိုက်တယ်။ သံသယသမား သိဒ္ဓတ္ထဟာ လွယ်လွယ်နဲ့ ယုံကြည်တတ်သူတစ်ယောက် မဟုတ်လို့ ဗုဒ္ဓ ထံမှာ သူ့ရင်ထဲက သံသယတွေ ကို မရှင်းလင်းနိုင်မချင်း သူဟာ ဗုဒ္ဓ ရဲ့ နောက်လိုက်တစ်ယောက် မဖြစ်နိုင်ဘူးဆိုတာလည်း သူသိနေခဲ့တယ်။

သံသယသမား သမဏသိဒ္ဓတ္ထ ရဲ့ မေးခွန်းတွေ အတွက် ကျေနပ်ဖွယ် အဖြေတွေ ကို မဟာသမဏကြီး ဂေါတမ က ပေးနိုင်မှာတဲ့လား။

# သိဒ္ဓတ္ထ ကို နားလည်ခြင်း (၇)။

သိဒ္ဓတ္ထ ဝတ္ထုကို ဖတ်မိကြတဲ့ မြန်မာဗုဒ္ဓဘာသာဝင်အများစုဟာ သိဒ္ဓတ္ထ နဲ့ ဗုဒ္ဓ တွေ့ဆုံစကားပြောတဲ့ အခန်း မှာ ဇာတ်ဆောင် သိဒ္ဓတ္ထ ကို သိပ်မနှစ်သက်ကြတော့တာကို တွေ့ရတယ်။ ငါတို့ဘုရားနဲ့ တွေ့ခွင့်ရတာတောင် အကျွတ်တရားမရတဲ့ လူဟာ ဘယ်လိုလူမျိုးလဲပေါ့။ သူ့မှာ မိစ္ဆာဒိဋ္ဌိအယူဝါဒတွေ ခံနေလို့သာ ဘုရားသားတော် မဖြစ်တာပေါ့။ သာသနာတော်ကြီးနဲ့ ကြုံတွေ့ရတာတောင် ခွင့်သာခိုက်မှာ မလိုက်ခဲ့တဲ့ ငမိုက်သား တစ်ယောက်အဖြစ် ပုံဖော်ကြတာကိုတွေ့ရပါတယ်။

တကယ်တော့လည်း စာရေးသူရဲ့ မူလဦးတည်ချက်အရရော စာပေသဘောတရား အရရော ဒါဟာ မဖြစ်နိုင်ပါဘူး။ ဟက်စ် ရဲ့ မူလဦးတည်ချက်က သိဒ္ဓတ္ထ ကို တစ်ကိုယ်တော် သစ္စာရှာမှီးသူတစ်ယောက် ကိုယ့်ဘဝဖြစ်တည်မှုရဲ့ အမှန်တရားကို ကိုယ်တိုင်ကိုယ်ကျတွေ့မြင် အလင်းရခဲ့သူတစ်ယောက် အနေနဲ့ ပုံဖော်တာ ဖြစ်တဲ့ အတွက် သိဒ္ဓတ္ထ ဟာ လွယ်လွယ်လေး နဲ့ ဗုဒ္ဓ ရဲ့ တပည့်သာဝကတစ်ယောက် ဖြစ်သွားမယ်ဆိုတာက မဖြစ်နိုင်ပါဘူး။ သိဒ္ဓတ္ထ ရဲ့ ကိုယ်ရည်ကိုယ်သွေး ကိုယ်တိုင် က သူများကို အားမကိုးချင်ပဲ ကိုယ်ဒူးကိုယ်ချွန်ချင်သူ စိတ်ဓာတ် ခိုင်မာပြတ်သားသူတစ်ယောက် အနေနဲ့ ပုံဖော်ထားတာ ဖြစ်လို့ ဂေါဝိန္ဒလိုပဲ ဗုဒ္ဓသာဝကတစ်ယောက်ဖြစ်သွားရတယ်ဆိုတာမျိုး နဲ့ က မကိုက်ညီလှပါဘူး။

နောက်တစ်ချက်က ဇာတ်လမ်းရဲ့ ဇာတ်ရှိန်သဘော။ ဗုဒ္ဓဝင်ကိုပဲ စဉ်းစားကြည့်။ ဘုရားလောင်း ဟာ ကာမဂုဏ်တွေ ကိုလည်း မခံစားခဲ့ရဘူးဆိုပါတော့။ တောထွက်ပြီး တရားရှာရင်းနဲ့ တောထဲက ဆရာတစ်ယောက်နဲ့တွေ့ပြီးတော့ ဘုရားအဖြစ်ကိုရလေတယ် ဆိုရင် အဲဒီ ဗုဒ္ဓဝင်ဟာ ခုလောက်စိတ်ဝင်စားစရာ ကောင်းမှာ မဟုတ်ဘူး။ ဟက်စ် က သိဒ္ဓတ္ထ သိဒ္ဓတ္ထ ကို ဗုဒ္ဓ ရဲ့ မှုကွဲအဆင်ကွဲသိဒ္ဓတ္ထအဖြစ် ပုံဖော်ထားတော့ ဗုဒ္ဓ ရဲ့ ဘဝအဖြစ်အပျက်တွေ ဟာ သူ့ပုံရိပ်ပေါ် ကို အရိပ်ထိုးနေပါတယ်။ ဗုဒ္ဓမဟုတ်တဲ့ နောက်ဗုဒ္ဓ အဖြစ် သူက သိဒ္ဓတ္ထ ဇာတ်ကောင်ကို ပုံဖော်ခဲ့တယ်။ ဒီအတွက် ဇာတ်လမ်းရဲ့ သုံးပုံတစ်ပုံလောက်မှာ သိဒ္ဓတ္ထ ဟာ ဗုဒ္ဓနဲ့တွေ့လို့ တရားရရှိပြီး တပည့်သာဝက မထင်မရှားရဟန်းတစ်ပါး ပဲ ဖြစ်သွားမယ်ဆိုရင်

ဒီ ဇာတ်လမ်း က ရသသဘောအရ ဘာမှ ဆွဲဆောင်မှု ရှိမယ် မထင်ဘူး။ ဒါကြောင့် သိဒ္ဓတ္ထ ဟာ ဗုဒ္ဓ ရဲ့ သင်ကြားချက်တွေ အပေါ်မှာ စောဒကတက်ခဲ့တယ် သူဟာ သူငယ်ချင်း ဂေါဝိန္ဒ နဲ့ မတူဘူးဆိုတာ ကို ပြသခဲ့တာကို တွေ့ရတယ်။

ဒီတော့ သိဒ္ဓတ္ထတို့ သူငယ်ချင်း နှစ်ယောက် ဗုဒ္ဓ နဲ့ တွေ့ပုံ အမေးအဖြေလုပ်ခဲ့ပုံတွေ ကို ဆက်လေ့လာကြည့်ရအောင်။

သိဒ္ဓတ္ထ နဲ့ ဂေါဝိန္ဒတို့ဟာ အဲဒီညဘက်မှာ ဇေတဝန်ကျောင်းတော်ထဲမှာ အတူတူ ညအိပ်ကြပေမဲ့ သူတို့ အိပ်မပျော်ကြဘူး။ ဘဝခြင်းခြားသွားနိုင်တဲ့ ဆုံးဖြတ်ချက်တွေ ကို ချပြီးကြတဲ့ အတွက် စိတ်မကောင်း ဖြစ်နေကြတယ်။ ဂေါဝိန္ဒ က သူ့ သူငယ်ချင်း သိဒ္ဓတ္ထ ကို နားမလည်နိုင်ဘူးဖြစ်နေခဲ့တယ်။ သိဒ္ဓတ္ထ ဟာ ဘာကြောင့်များ ဒီလောက်ကောင်းမွန်ပြည့်စုံတဲ့ ဗုဒ္ဓ ရဲ့ တရားတော်ကို မနှစ်သက်နိုင်ရတာလဲ။ ဘယ်လို ချွတ်ယွင်းချက်မျိုးများ သူတွေ့သွားလို့ ဗုဒ္ဓ ကို လက်မခံနိုင်ရတာလဲ လို့ တွေးနေမိတယ်။ မေးတော့လဲ တိကျတဲ့ အဖြေကို သိဒ္ဓတ္ထ ဆီကနေ မရပါဘူး။

နောက်တစ်နေ့မနက်မှာတော့ ဂေါဝိန္ဒဟာ သူ့ ဆုံးဖြတ်ချက်အတိုင်း သူငယ်ချင်းကို ရင်ချင်းအပ်နှုတ်ဆက်လို့ ရဟန်းဘောင်ကို တက်ရောက်သွားပါတယ်။ သိဒ္ဓတ္ထ တစ်ယောက်တည်း ကျန်ရစ်ခဲ့တဲ့ အခါ ကျောင်းဝင်းထဲမှာ သူလျှောက်သွားနေရင်း ဗုဒ္ဓ ကို တွေ့တော့ သူ့ ရဲ့ သံသယတွေ ကို အခုလို ဖွင့်ချပြခဲ့ပါတယ်။

((( သိဒ္ဓတ္ထသည် နက်နက်နဲနဲ စဉ်းစားတွေးတောရင်း ဥယျာဉ်ထဲ လျှောက်သွား၏။ ယင်းသို့ လျှောက်သွားရင်းပင် သူသည် ဂေါတမဗုဒ္ဓနှင့် အမှတ်မထင် သွားဆုံလေသည်။ သူသည် ရိုသေလေးစားစွာဖြင့် ရှိခိုးဦးညွှတ်လိုက်သည်။ ဗုဒ္ဓ၏ မျက်နှာတော်၌ မြင့်မြတ်မှုနှင့် ငြိမ်းချမ်းမှု ပေါ်နေသဖြင့် သိဒ္ဓတ္ထသည် ရဲဝံ့လာပြီး ဗုဒ္ဓအား တစ်ခုလျှောက်ပါရစေ ဆိုသည့်အကြောင်း ခွင့်တောင်းလိုက်၏။ ဗုဒ္ဓက ခွင့်ပေးကြောင်း ဦးခေါင်းညိတ်ပြလိုက်သည်။ သိဒ္ဓတ္ထက လျှောက်ထားလေသည်။

“ရှင်တော်ဗုဒ္ဓ၊ ယမန်နေ့က တပည့်တော် အရှင်ဘုရား၏ အံ့ဩဖွယ် တရားဒေသနာတော်ကို နာကြားခွင့် ရရှိခဲ့ပါတယ်။ တပည့်တော်ဟာ

ဝေးလံလှတဲ့ခရီးက မိတ်ဆွေတစ်ယောက်နှင့်အတူ အရှင်ဘုရား၏ တရားတော်ကို နာကြားရန်အတွက် ရောက်ရှိလာခဲ့သူ ဖြစ်ပါတယ်။ တပည့်တော်၏ မိတ်ဆွေမှာမူ အရှင်ဘုရားနှင့်အတူ နေခဲ့ပါလိမ့်မည်။ သူ အရှင်ဘုရား၏ တပည့်သာဝကအဖြစ် ခံယူလိုက်ပါပြီ။ တပည့်တော်ကတော့ ခရီးအသစ်ကို ဆက်လက်ထွက်ခွာသွားမလို့ပါ"

"သင် သဘောကျသလို လုပ်နိုင်ပါတယ်" ဗုဒ္ဓက ယဉ်ကျေးသိမ်မွေ့စွာပင် ပြန်ပြောလိုက်လေ၏။ သိဒ္ဓတ္ထက လျှောက်ထားပြန်လေသည်။

"တပည့်တော်ရဲ့စကားဟာ အတင့်ရဲလွန်းနေမည်လား မသိပါ။ သို့သော်လည်း တပည့်တော်ရဲ့အတွေးကို ရိုးသားစွာ အရှင်ဘုရားအား ထုတ်ဖော်လျှောက်ထားမပြဘဲနဲ့ တပည့်တော် ဒီနေရာက ထွက်ခွာသွားလိုစိတ် မရှိပါ။ အချိန်အနည်းငယ်ယူပြီး တပည့်တော်ရဲ့ လျှောက်ထားချက်ကို ကြားနာပါမည်လား အရှင်ဘုရား"

ဗုဒ္ဓက သဘောတူသည်ဆိုသည့် လက္ခဏာဖြင့် တုံဏှိဘာဝေ ဆိတ်ဆိတ်နေတော်မူ၏။ သိဒ္ဓတ္ထက ဆက်လက်လျှောက်ထားသည်။

"ရှင်တော်ဗုဒ္ဓ၊ အရှင်ဘုရားဟောကြားတဲ့ ဒေသနာမှာရှိတဲ့ တခြားသော အရာတွေထက် အကြောင်းအရာ တစ်ခုအတွက်နဲ့ပဲ တပည့်တော် အရှင်ဘုရား၏ တရားဒေသနာတော်ကို လေးစားမြတ်နိုးလှပါပြီ။ အဲဒီအကြောင်းအရာဟာ ဘာလဲဆိုလျှင် တရားဒေသနာတော်မှာပါရှိတဲ့ အရာဝတ္ထုအားလုံးဟာ ပြတ်သားနေခြင်း ဖြစ်ပါတယ်။ သူ့အလိုလိုပင် ထင်ရှားနေခြင်း ဖြစ်ပါတယ်။

ကမ္ဘာလောကဟာ အကြောင်းအကျိုးများဖြင့် ဆက်ထားတဲ့ ပြည့်ဝသော၊ မကျိုးပြတ်သော ကွင်းဆက်တစ်ခုအဖြစ်၊ ထာဝရ တည်ရှိနေတဲ့ ကွင်းဆက်တစ်ခုအဖြစ် အရှင်ဘုရားက ဖော်ပြပါတယ်။ အဲဒီလို မှန်ကန်တဲ့ သစ္စာတရားမျိုးကို ယခုလောက် ပြတ်ပြတ်သားသား ဘယ်တုန်းကမှ တင်ပြခြင်းမရှိခဲ့ဖူးပါ။ အခုလောက် ယုတ္တိယုတ္တာ ရှိရှိ မည်သည့်အခါကမှ ပြောပြခြင်း မရှိခဲ့ဖူးပါ။အကယ်၍ ဗြာဟ္မဏတွေဟာ အကြားအပေါက်ဟူ၍ မရှိဘဲ လုံးဝတစ်သားတည်း ဖြစ်နေတဲ့၊ ကျောက်သလင်းကဲ့သို့

ဒိုးယိုပေါက်မြင်နေရတဲ့ ကံအကြောင်းတရားနဲ့ နတ်ဒေဝတာတွေ အပေါ်မှာ မှီမနေရတဲ့ ကမ္ဘာလောကကို အရှင်ဘုရားဟောကြားတဲ့ တရားဒေသနာ အားလျော်စွာ ကြည့်ကြမယ်ဆိုလျှင် သူတို့ရဲ့နှလုံးသွေးဟာ ပိုပြီး အခုန်မြန်လာဖို့ ရှိပါတယ်။ ကမ္ဘာလောကဟာ ကောင်းသည်၊ သို့မဟုတ် ဆိုးသည်ဟုပဲ ဆိုဆို၊ သို့မဟုတ် အနိစ္စဖြစ်သည်ဟုပဲ ဆိုဆို၊ အဲဒီလို ပြောတာတွေဟာ ဖြစ်နိုင်စရာ၊ မှန်နိုင်စရာ ရှိပါတယ်။ သို့ပေမယ့် ဒါတွေက ဒါလောက်အရေးမကြီးပါ။ အမှန်တကယ် အရေးကြီးတာက ကမ္ဘာလောကရဲ့ ပေါင်းစည်းနေမှု အဖြစ်အပျက်အားလုံး တစ်ခုနှင့်တစ်ခု အညမညဆက်စပ်နေမှု တစ်သားတည်းဖြစ်နေမှု၊ ကြီးကြီးငယ်ငယ်အရာဝတ္ထု အားလုံးကို တစ်ခုတည်းသော အလျဉ်၊ တစ်ခုတည်းသော စီးကြောင်းမှ ခံယူမှု၊ တစ်ခုတည်းသော အကြောင်းကြောင့် အားလုံး၏ဖြစ်ပေါ်မှု၊ ဇာတိနှင့် မရဏ စက်ရဟတ်လည်မှုများဖြစ်ပါတယ်။ အဲဒါတွေဟာ အရှင်ဘုရားဟောကြားတဲ့ တရားဒေသနာတော်အရ လွန်စွာမှ ရှင်းလင်းပြတ်သား သွားပါတယ် ရှင်တော်ဗုဒ္ဓ။ သို့သော်လည်း အရှင်ဘုရားဟောကြားတဲ့ ဒေသနာတော်အရ ဖြစ်တဲ့အရာဝတ္ထု ဟူသမျှရဲ့ ပေါင်းစည်းဆက်စပ်နေမှုနဲ့ အရာဝတ္ထုအားလုံးတို့ရဲ့ တက္ကဗေဒနှင့် ညီညွတ်သော အကျိုးကျေးဇူးဆိုတဲ့ သဘောတရားတွေဟာ နေရာတစ်နေရာမှာ ကျိုးပြတ်နေတာကို တွေ့ရပါတယ်။ သေးငယ်တဲ့ အကြားအပြတ်ကနေပြီး ပေါင်းစည်းဆက်စပ်နေတဲ့ ကမ္ဘာလောကထဲကို ယခင်ကလည်း မရှိ။ ယခုလည်း လက်တွေ့ပြလို့မရတဲ့ ဆန်းတဲ့ အရာတစ်ခု ဝင်လာပါတယ်။

အဲဒီအရာဟာ ဘာလဲလို့ ဆိုရင်ဖြင့် အရှင်ဘုရားရဲ့ ကမ္ဘာလောကအပေါ်တက်နေတဲ့၊ ကမ္ဘာလောကနဲ့ လွတ်နေတဲ့ အယူဝါဒ ဖြစ်ပါတယ်။ အရှင်ဘုရားရဲ့ နိဗ္ဗာန် အယူဝါဒဖြစ်ပါတယ်။ ယင်း သေးငယ်တဲ့ အကြား၊ ယင်း သေးငယ်တဲ့ အပြတ်ကြောင့် ဒီ ထာဝရဖြစ်တဲ့ ကွင်းဆက် ကမ္ဘာ့နိယာမဥပဒေကြီးဟာ တစ်ဖန် အကျိုးပြတ်သွားရပါတယ်။ ဒီလို လျှောက်ထားပြောပြတဲ့အတွက် တပည့်တော်ကို ခွင့်လွှတ်တော်မူပါ အရှင်ဘုရား”)))

သိဒ္ဓတ္ထ ဟာ ဗုဒ္ဓ ရဲ့ အကြောင်းအကျိုး ဆက်စပ်မှု= ပဋိစ္စသမုပ္ပါဒ် တရားရဲ့ ပြည့်စုံကုံလုံမှုကို အံ့ဩချီးမွမ်းခဲ့တယ်။ ကြောင်းကျိုးဆက်နွယ်မှု နိယာမတရားကြီးရဲ့ အားလုံးအကျုံးဝင်ကွန်ရက်ထဲမှာ အရာခပ်သိမ်းရဲ့

ပေါင်းစည်းဆက်စပ်နေမှု သဘော တစ်ခုတည်းသော စီးကြောင်းကြီးအဖြစ် စီးဆင်းနေတယ်ဆိုတဲ့ တရားကို နှစ်ခြိုက်လက်ခံခဲ့တယ်။ ဒါပေမဲ့ အရာခပ်သိမ်းဟာ အကြောင်းကြောင့် ဖြစ်ရတဲ့ အကျိုးတရားတွေ ဆိုရင် အကြောင်းတရားတိုင်းဟာလည်း သူတို့ရှေ့က သူတို့ ကို ဖြစ်စေတဲ့ အကြောင်းတရားတွေ ရှိနေမှာ မလွဲပဲ။ ဒီလို ကြောင်းကျိုးတရားစနစ်ရဲ့ တစ်ခုတည်းသော ကွန်ရက်ကြီးဟာ အကြားအလပ်မရှိအောင် ပြီးပြည့်စုံနေတယ်ဆိုရင် ဒီ စနစ်ကြီးထဲ ကနေ လွတ်မြောက်ထွက်သွားဖို့ ဆိုတာ မဖြစ်နိုင်ဘူးလို့ သိဒ္ဓတ္ထ က စောဒက တက်ခဲ့တာ ဖြစ်တယ်။

သိဒ္ဓတ္ထရဲ့ အယူအဆ ကို ရူပဗေဒပညာရဲ့ စွမ်းအင်တည်မြဲမှုနိယာမသဘောနဲ့ ထင်ဟပ်ကြည့်လို့ ရနိုင်တယ်။ စနစ်တစ်ခုထဲမှာ ရှိနေတဲ့ စွမ်းအင်တွေ ရဲ့ ပမာဏ ဟာ အတိုးလည်းမရှိ အဆုတ်လည်းမရှိပဲ ထာဝစဉ်တည်မြဲနေတယ်ဆိုတဲ့ ဥပဒေသပါ။ စွမ်းအင်ပုံစံတစ်ခုဟာ နောက်စွမ်းအင်ပုံသွင်တစ်ခု အဖြစ် ပြောင်းသွားနိုင်ပေမဲ့ စွမ်းအင်တွေကို ရှိနေရာကနေ မရှိတော့အောင် ဖျက်ဆီးလို့ မရသလို မရှိတဲ့အခြေအနေကနေ ရှိလာအောင်လည်း ဖန်ဆင်းလို့မရပါဘူး။ ကြောင်းကျိုးဆက်နွယ်မှုတွေနဲ့တည်ဆောက်ထားတဲ့ စနစ်ထဲကနေ ဘယ်စွမ်းအင်ယူနစ်မှ လွတ်ထွက်သွားဖို့ မဖြစ်နိုင်ပါဘူး။ ဒါကြောင့် သိဒ္ဓတ္ထ ဟာ ဗုဒ္ဓ ရဲ့ ကြောင်းကျိုးဆက်နွယ်မှု နိယာမတရား ကို လက်ခံပေမဲ့ အဲဒီ စနစ်ထဲကနေ လွတ်မြောက်ထွက်သွားနိုင်တယ်ဆိုတဲ့ နိဗ္ဗာန်အယူအဆကိုတော့ ဗုဒ္ဓ ရဲ့ စနစ်မှာ ချွတ်ယွင်းချက်တစ်ခုလို့ (ယုတ္တိကွင်းဆက်လွတ်နေတဲ့ အမြင်တစ်ခုလို့) မြင်နေတာဖြစ်ပါတယ်။

တကယ်တော့ ဗုဒ္ဓဟာ ပဋိစ္စသမုပ္ပါဒ (အကြောင်းကိုမှီစွဲ၍ အကျိုးတရားတို့ ဖြစ်ပွားခြင်းသဘော) ကိုတင် ဟောကြားတာ မဟုတ်ပဲ ပဋိစ္စ သမုစ္ဆေဒ (အကြောင်းတရားတို့ ချုပ်ငြိမ်းခြင်းကို မှီစွဲ၍ အကျိုးတရားတို့ ချုပ်ငြိမ်းခြင်း သဘော ကိုပါ ဟောကြားပါတယ်။ ယံကိဉ္စိ သမုဒယဓမ္မံ သဗ္ဗံ တံ နိရောဓဓမ္မန္တိ။ (အကြင်တရားတို့သည် အကြောင်းအမွန်အစရှိကြ၏ ထို အကြောင်းမကင်းသော တရားဟူသမျှသည် (ထိုအကြောင်းတရားတို့၏ ချုပ်ငြိမ်းမှုကြောင့်) ချုပ်ငြိမ်းကြရသော တရားများလည်း ဖြစ်ကြပေ၏= ဆိုတာ က ဗုဒ္ဓ ရဲ့ အမြင်ဖြစ်ပါတယ်။ ဒါကြောင့် ဗုဒ္ဓ ရဲ့ ဓမ္မအမြင်ကို Compatibilism လိုက်ဖက်ညီဝါဒ တစ်မျိုးလို့လည်း ဆိုကြပါတယ်။ ကြောင်းကျိုး

ဆက်နွယ်မှုသဘောနဲ့ ကြောင်းကျိုးမှလွတ်မြောက်ခြင်းသဘောတွေဟာ တစ်ခုတည်းသော စနစ်အတွင်းမှာပဲ ဖြစ်နိုင်ခွင့်ရှိတယ်ဆိုတဲ့ အယူအဆ ဖြစ်တယ်။

သိဒ္ဓတ္ထ ကတော့ သူ့ရှုထောင့်ကနေ ဗုဒ္ဓ ရဲ့ လွတ်မြောက်ခြင်း အမြင်ဟာ ကြောင်းကျိုးဆက်နွယ်မှုအမြင်နဲ့ ယုတ္တိဆန့်ကျင် နေတယ်လို့ ယူဆပြီးဝေဖန်ထောက်ပြခဲ့တာသာ ဖြစ်ပါတယ်။

# သိဒ္ဓတ္ထ ကို နားလည်ခြင်း (၈)။

ဂေါတမဗုဒ္ဓဟာ သိဒ္ဓတ္ထလိုပဲ ဆင်ခြင်ဆင်လက်ပေးတတ်တဲ့ စောဒကတတ်ပြီး ဝါဒရေးရာ ငြင်းခုံတတ်တဲ့ သမဏတွေ ပရဗိုဇ်တွေ အာဇီဝက တက္ကဒွန်းတွေ တိတ္ထိတွေ ကို မကြာခဏကြုံဖူးပါတယ်။ ဒါကြောင့် သိဒ္ဓတ္ထ ရဲ့ ပွင့်ပွင့်လင်းလင်း ထောက်ပြချက်ကိုလဲ သူတော်စင် ယောဂီကြီးတစ်ယောက်အနေနဲ့ အေးချမ်းငြိမ်သက်စွာပဲ လက်ခံပါတယ်။ ပြီးတော့မှ အလွန်နူးညံ့သိမ်မွေ့တဲ့ လေသံဟန်ပန်နဲ့ သူ့ရဲ့ ရပ်တည်ချက် နဲ့ သူ့ရဲ့ သာသနာ အဆုံးအမ ဦးတည်ချက်တွေ ကို သိဒ္ဓတ္ထ နားလည်အောင်ရှင်းပြပါတယ်။

(((“ပြာဟ္မဏ၏သား၊ သင်သည် တရားဒေသနာတော်ကို ကောင်းမွန်စွာ နာကြားခဲ့သည်။ တရားဒေသနာနှင့် ပတ်သက်ပြီး ယခုလို နက်နက်နဲနဲ တွေးခေါ်သည့်အတွက် ယခုလို အပြစ်အနာအဆာကို ရှာဖွေထုတ်ပြသည့်အတွက် သင်သည် ကျေးဇူးတင်ထိုက်သည့် ပုဂ္ဂိုလ် တစ်ယောက် ဖြစ်ပေသည်။ တရားဒေသနာနှင့်ပတ်သက်ပြီး တစ်ဖန်ပြန်ပြီး စဉ်းစားဆင်ခြင်ပါဦးလော့။ အသိပညာ မွတ်သိပ်နေတဲ့ သင့်ကို ငါ သတိတစ်ခုပေးချင်သည်။ အယူအဆ ဝါဒရေးရာ ငြင်းခုံမှုကို သတိကြပ်ကြပ်ထားပါ။

အယူအဆ ဝါဒဆိုသည်မှာ လှပသည်ဖြစ်စေ၊ အရုပ်ဆိုးသည် ဖြစ်စေ၊ ဉာဏ်နှင့် ယှဉ်သည်ဖြစ်စေ၊ ဉာဏ်နှင့်ကင်းသည်ဖြစ်စေ၊ တစ်စုံတစ်ဦးက လက်ခံသည်ဖြစ်စေ၊ ငြင်းပယ်သည်ဖြစ်စေ ဘာအဓိပ္ပါယ်မျှ မရှိ၊ အကျိုးမရှိ၊ အချည်းနှီးအလဟဿပင်ဖြစ်သည်။ ငါ့ထံမှ သင်ကြားနေရသည့် တရားဒေသနာသည် အယူအဆ ဝါဒမဟုတ်ပေ။ အဲဒီတရားဒေသနာ၏ ရည်ရွယ်ချက်ကလည်း အသိပညာ မွတ်သိပ်နေသည့် ပုဂ္ဂိုလ်များအား ကမ္ဘာလောက၏အကြောင်း ရှင်းလင်းပြောပြရန် အတွက် မဟုတ်ပေ။ အဲဒီ တရားဒေသနာ၏ ရည်ရွယ်ချက်က တစ်ခြားဖြစ်ပေသည်။ အဲဒီတရားဒေသနာ၏ ရည်မှန်းချက်က ဒုက္ခမှ လွတ်မြောက်ရန် ဖြစ်ပေသည်။ အဲဒါကိုပဲ ဂေါတမဟောကြားသည်။ တစ်ခြားဘာကိုမျှ မဟောကြားပေ”)))

ဗုဒ္ဓ ရဲ့ အမြင်မှာတော့ လူတွေ ဖန်တီးတည်ထောင်ကြတဲ့ ဝါဒရေးရာတွေ ဒဿနအမြင်တွေ ဆိုတာ အချင်းချင်း ငြင်းခုံတိုက်ခိုက်ကြဖို့နဲ့ ပင်ပန်းဆင်းရဲခြင်းဖြစ်ရဖို့ ကလွဲလို့ ဘာမှ အကျိုးမရှိ အနှစ်အသားမရှိတဲ့ ကိစ္စတွေ လို့ ပဲမြင်ပါတယ်။ ဘယ်လောက်လှပတဲ့ အယူအဆပဲ ဖြစ်ဖြစ် ဘယ်လောက် အရပ်ဆိုးအကျည်းတန်တဲ့ အတွေးအခေါ်ပဲ ဖြစ်ဖြစ် ဒါတွေဟာ နောက်ဆုံး တဏှာ မာန ဒိဋ္ဌိ ဆိုတဲ့ ပပဥ္စတရားတွေ ကို အခြေခံပြီးတော့ အတ္တမာန ကို ထူထောင်တဲ့ အယူအဆရေးရာ မှော်ရုံတောနက်ကြီးတွေ သာ ဖြစ်ပြီးတော့ လူသားဘဝ ရဲ့ လက်တွေ့ပြဿနာတွေ ကို မဖြေရှင်းပေးနိုင်တဲ့ တိမ်တိုက်ပေါ်က ဆင်စွယ်နန်းတော်ကြီးတွေသာ ဖြစ်တယ်လို့ မြင်ပါတယ်။

ဗုဒ္ဓ က သူ့ရဲ့ ဓမ္မဟာ လူသားရဲ့ ဘဝဖြစ်တည်မှုမှာ ရှိနေတဲ့ ဆင်းရဲဒုက္ခတွေကို သိမြင်နားလည်ဖို့ ဒုက္ခတွေ ကို ဖြစ်စေတဲ့ အကြောင်းတရားတွေ ဖြစ်တဲ့ တဏှာဥပါဒါန်သင်္ခါရတရားတွေ အကြောင်းကို သဘောပေါက်ပြီး ပယ်ရှားနိုင်ဖို့ ဒုက္ခငြိမ်းကြောင်း ဖြစ်တဲ့ မှန်ကန်စွာ သိမြင်တွေးခေါ် ပြုမူပြောဆိုဆောင်ရွက် ရှင်သန်နေထိုင် ကြိုးစား သတိပွားပြီး အမြင့်ဆုံး တည်ကြည်မှုကို ရအောင် ကျင့်ကြံဖို့ နဲ့ ဒုက္ခငြိမ်းရာ သန္တိသုခ အမြိုက်ဓာတ်ကို ရရှိဖို့ပဲ ဖြစ်တယ်ဆိုတာ ကို သိဒ္ဓတ္ထနားလည်အောင် ရှင်းပြပါတယ်။

ဗုဒ္ဓ ရဲ့ ရပ်တည်ချက်မျိုး ကို ဒဿနဗေဒပညာ နယ်ပယ်မှာတော့ ပရက်ဂမာဝါဒ/ Pragmatism လို့ အမည်ပေးကြပါတယ်။ လက်တွေ့ဘဝ ရဲ့ ဘောင်ထဲမှာ လက်တွေ့လုပ်ဆောင်လို့ရတဲ့ (သိခြင်း ပယ်ခြင်း ပွားခြင်း ဆိုက်ခြင်း) ဆိုတဲ့ အလုပ်ကိစ္စတွေ ကိုပဲ အာရုံပြုထားပြီး နေထိုင်တဲ့ ဘဝလမ်းစဉ်မျိုး ဖြစ်တယ်။ အယူအမြင်တစ်ခုရဲ့ မှန်ကန်မှု အတိုင်းအတာ ကိုလည်း လက်တွေ့ဘဝအတွက် အကျိုးအမြတ်ရလဒ်ကောင်းတွေ ရရှိမှုပေါ်ကို ပဲ အခြေခံပြီးစဉ်းစားခံယူတဲ့ ဝါဒ အမြင်မျိုး ဖြစ်တယ်။ ဒီအချက်ကို ဗုဒ္ဓ ရဲ့ နာမည်ကျော် ကာလာမသုတ္တန်မှာလည်း အထင်အရှားတွေ့ရတယ်။ အယူဝါဒ တစ်ခု ရဲ့ အမှန်တရား ကို ပိုင်းဖြတ်ရာမှာ အောက်ပါ နှုန်းစံတွေ နဲ့ တိုင်းတာရမယ်လို့ (အင်္ဂုတ္တရနိကာယ်၊ တိကနိပါတ်၊ မဟာဝဂ်ကေသမုတ္တိသုတ်) က ဆိုပါတယ် =

ဤတရားတို့ကား အကုသိုလ်တရား၊ အပြစ်ရှိသောတရား၊ ပညာရှိတို့ ကဲ့ရဲ့အပ်သော တရားတည်း၊ ထိုတရားတို့ကို ကျင့်သုံးပါက အစီးအပွားမရှိခြင်းငှါ၊ ဆင်းရဲခြင်းငှါ။ ဖြစ်ကုန်၏ ဟု သင်တို့သည် “ မိမိတို့ ကိုယ်တိုင် ” သိသောအခါ၌ ယင်းတို့ကို စွန့်ပယ်ရာ၏။

ဤတရားတို့ကား ကုသိုလ်တရား၊ အပြစ်မရှိသောတရား။ ပညာရှိတို့ ချီးမွမ်းအပ်သော တရားများဖြစ်၍ ယင်းတို့ကို ကျင့်သုံးပါက အစီးအပွားရှိသည် ချမ်းသာခြင်းငှါ ဖြစ်သည်ဟု “မိမိကိုယ်တိုင်” သိသောအခါ၌မှ သင်တို့သည် ယင်းတို့နှင့် ပြည့်စုံနေကုန်ရာ၏။ ”

ဗုဒ္ဓ ရဲ့ လက်တွေ့စံကျင့်သုံးရေး ပရက်ဂမာဝါဒအမြင်ကို သိဒ္ဓတ္ထကလည်း လက်ခံတယ်။ သူ့အမြင်မှာ ဗုဒ္ဓဟာ မိမိပန်းတိုင်ကို အောင်မြင်ရောက်ရှိပြီးသူ မိမိရဲ့ အသိပညာကို အခြားသူတွေ ကိုေဝမျှပေးဖို့ ကြိုးစားနေသူ ဖြစ်တယ် လို့ လည်း ယုံကြည်နေပါတယ်။

ဒါပေမဲ့ သူ့စိတ်ထဲမှာ မကျေလည်တဲ့ ကိစ္စတစ်ခုရှိနေသေးတယ် သံသယရဲ့ မီးတစ်စ ကျန်နေသေးတယ်။ အဲဒီ သံသယ မီးဟာ သူ့ဘဝတစ်ခုလုံးကိုတောင် လောင်မြိုက်လာတော့မဲ့ မီးတစ်စလည်း ဖြစ်တယ်။

သိဒ္ဓတ္ထဟာ ဗြဟ္မဏတွေ ရဲ့ ယဇ်ပူဇော်တဲ့ အကျင့်နဲ့ ဓလေ့ထုံးတမ်းတွေ ကို လည်း စွန့်လွှတ်ခဲ့တယ်။ သမဏတွေ ရဲ့ ခေါင်းပါးတဲ့ တပကျင့်စဉ်တွေ ကိုလည်း နောက်မှာထားခဲ့တယ်။ ဒီလိုထားနိုင်ခဲ့တာတွေ ရဲ့ နောက်မှာ ရှိနေတဲ့ သူ့ ရဲ့ ဘဝအမြင်တစ်ခု ရှိနေပါတယ်။ အဲဒီဘဝ အမြင်ကြောင့် သူဟာ ဗုဒ္ဓ ရဲ့ ဆရာအဖြစ်ကို သံသယရှိနေခဲ့တာ ဖြစ်ပါတယ်။ သူဘယ်လို ပြောသလဲ နားထောင်ကြည့်ရအောင်။

((( လုလင် သိဒ္ဓတ္ထက ပြန်လည်လျှောက်ကြား၏။

“တပည့်တော်ကို စိတ်မရှိပါနှင့် ရှင်တော်ဗုဒ္ဓ၊ အရှင်ဘုရားအား တပည့်တော် ကြားလျှောက်ရခြင်း၏ ရည်ရွယ်ချက်မှာ အရှင်ဘုရားနှင့် ဝါဒငြင်းခုံလိုတဲ့အတွက်မဟုတ်ပါ။ အယူအဆဝါဒဆိုသည်မှာ ဘာအဓိပ္ပါယ်မျှ မရှိ၊ အကျိုးမရှိ၊ အချည်းနှီးအလဟဿပင် ဖြစ်သည်ဟု အရှင်ဘုရား မိန့်ကြားတော်မူသည်မှာ သင့်မြတ်လှပါတယ်။ သို့သော်လည်း တပည့်တော်

နောက်ထပ် တစ်ခု လျှောက်ထားပါရစေ။ တပည့်တော် အရှင်ဘုရားအပေါ်မှာ တစ်ခဏလေးမျှတောင်မှ ယုံမှားသံသယမရှိပါ။ ပြီးတော့ အရှင်ဘုရား ဗုဒ္ဓဖြစ်တယ်ဆိုတဲ့အချက်နှင့် ရာထောင်များစွာသော ဗြာဟ္မဏများ၊ ဗြာဟ္မဏသားများ ရောက်ဖို့ရန်အတွက် ကြိုးစားအားထုတ်နေတဲ့ အမြင့်ဆုံးသော ရည်မှန်းချက်ကို အရှင်ဘုရား ရောက်ရှိနေပြီဆိုတဲ့ အချက်ကိုလည်း တပည့်တော် ယုံမှားသံသယကင်းပါတယ်။ အဲဒီရည်မှန်းချက်ကို အရှင်ဘုရားဟာ မိမိ၏ ရှာမှီးခြင်းအားဖြင့်လည်းကောင်း၊ ကိုယ့်နည်းနှင့်ကိုယ် ကြံစည်တွေးတောခြင်း၊ တရားအားထုတ်ခြင်းအားဖြင့် လည်းကောင်း၊ အသိဉာဏ်နှင့်အလင်းရောင်အားဖြင့် လည်းကောင်း ရရှိခဲ့ခြင်းဖြစ်ပါတယ်။ တရားအဆုံးအမ၊ တရားဒေသနာအားဖြင့် မည်သည့်အရာကိုမျှ အရှင်ဘုရား မရရှိခဲ့။ သို့အတွက်ကြောင့် တရားဒေသနာအားဖြင့် မည်သူမျှ နိဗ္ဗာန်ကို မရနိုင်ဟု တပည့်တော် ထင်မြင်ယူဆပါတယ် ရှင်တော်ဗုဒ္ဓ။ မြတ်သောအသိဉာဏ်ကို ရရှိစဉ် ခဏ၌ အရှင်ဘုရား ဘယ်လိုဖြစ်ခဲ့တယ်ဆိုတာကို စကားအားဖြင့်လည်းကောင်း၊ တရားဒေသနာအားဖြင့်လည်းကောင်း၊ တစ်စုံတစ်ဦးအား အရှင်ဘုရား ရှင်းလင်းပြောပြနိုင်မှာမဟုတ်ပါ။ ရှင်တော်ဗုဒ္ဓရဲ့ တရားဒေသနာများဟာ နယ်ပယ်ကျယ်ဝန်းပါတယ်။ အရာများစွာကို ငုံမိပါတယ်။ မည်သို့မည်ပုံ အပြစ်ကင်းစွာနေရမည်ဆိုသည့်အချက်နှင့် မည်သို့မည်ပုံ အကုသိုလ်ဒုစရိုက်ကို ရှောင်ရှားရမည်ဆိုသည့် အချက်များကိုလဲ ဟောပြထားပါတယ်။ သို့သော်လည်း အဲဒီ ပြတ်သားလှတဲ့ တရားဒေသနာမြတ်ထဲမှာ မပါတဲ့ အရာဝတ္ထုတစ်ခုရှိနေပါတယ်။ အဲဒီ တရားဒေသနာထဲမှာ ဗုဒ္ဓကိုယ်တိုင် တွေ့မြင်သိရှိခဲ့တဲ့ ကုဋေကုဋာများစွာ သော လူတွေအနက်က အရှင်ဘုရား တစ်ဦးတည်းသာလျှင် တွေ့မြင်သိရှိခဲ့သော လျှို့ဝှက်ချက်မပါရှိပါ။ အရှင်ဘုရားရဲ့ တရားဒေသနာကိုကြားနာရတဲ့အခါမှာ တပည့်တော် အဲဒီလိုပဲ တွေးမိပါတယ်။ အဲဒီလိုပဲ သဘောပေါက်ခဲ့ပါတယ်။ ထို့အတွက်ကြောင့် တပည့်တော် ကိုယ့်ခရီးကို ကိုယ်ဆက်ခြင်းဖြစ်ပါတယ်။ ယခုလို ခရီးဆက်သော်လဲပဲ နောက်ထပ် ပိုမိုကောင်းမြတ်တဲ့ ဝါဒတစ်ခုကို ရှာဖွေရန်အတွက်မဟုတ်ပါ။ ဘာဖြစ်လို့လဲဆိုရင် အဲဒီလို နောက်ထပ်ကောင်းမြတ်တဲ့ ဝါဒတစ်ခုခုရယ်လို့မရှိဘူးဆိုတာ တပည့်တော် သိနေတဲ့အတွက်ကြောင့် ဖြစ်ပါတယ်။ အမှန်စင်စစ်တော့ ဝါဒဟူသမျှ၊ တရားဒေသနာဟူသမျှကိုစွန့်ပြီး ကိုယ့်ရည်မှန်းချက် ရှိရာကို

ကိုယ်တိုင်ရောက်ရှိရန်အတွက်(ဝါ) သေခြင်းသို့ ရောက်ရန်အတွက် ဆင်းသက်ရခြင်း ဖြစ်ပါတယ်။ သို့သော်လည်း တပည့်တော်ဟာ ဒီနေ့ဒီရက်ကိုတော့ မေ့တော့မည်မဟုတ်ပါ။ ပုဂ္ဂိုလ်မြတ်တစ်ဦးကို မျက်မှောက်ပြုရတဲ့ ဒီခဏ ဒီနာရီဟာဖြင့် တပည့်တော်ရဲ့အမှတ်သညာထဲက ပျောက်ကွယ်သွားတော့မည်မဟုတ်ပါ”)))

သိဒ္ဓတ္ထ က ဗုဒ္ဓကို ပြန်လည် လျှောက်ကြားတဲ့ စကားလုံးတွေ ရဲ့ အနှစ်သာရကတော့ သူ့ ရဲ့ ပုဂ္ဂလအတ္တဘဝအမှန်ဝါဒ ရပ်တည်ချက်ပဲ ဖြစ်တယ်။ လူတစ်ယောက်ဟာ အမှန်တရားကို မျက်မှောက်ပြုဖို့ အတွက် ဘယ်ပြင်ပ ဆရာကိုမှ အားကိုးလို့ မရသလို ဘယ်ပြင်ပ အယူဝါဒတရားဒေသနာကိုမှလည်း မှီခိုနေလို့ မရဘူးလို့ သိဒ္ဓတ္ထက မြင်နေပါတယ်။ ကိုယ့်ဝမ်းနာကိုယ်သာသိ ကိုယ့်တရားကိုယ်ဆုံးဖြတ်ရတဲ့ ဘဝသစ္စာတရားကိုပဲ သူက ယုံကြည်နေပါတယ်။ သက်သေ ပြတဲ့ အနေနဲ့ သူ က ဗုဒ္ဓ ရဲ့ ဖြစ်စဉ်ကို ပဲ ထောက်ပြတယ်။ ဗုဒ္ဓ ဟာလည်း ဆရာမရှိဘူး ဘယ်ပြင်ပ တရားဓမ္မကိုမှ မှီခိုပြီးတော့ သစ္စာဉာဏ်အလင်းရောင်ရခဲ့တာမဟုတ်ဘူး။ မိမိရဲ့ အတွင်းသန္တာန်ကို မိမိဘာသာမိမိ ထိုးဖောက်နားလည်ပြီး မှ ဘုရားဖြစ်ခဲ့တာပဲ မဟုတ်လားလို့ သူက စောဒကတက်ပါတယ်။ ဗုဒ္ဓဟာ တရားဒေသနာမျိုးစုံ ကို တပည့်သာဝကတွေ ကို ဟောပြောညွှန်ပြနေပေမဲ့ ဒီတစ်ချက်ကိုတော့ဖြင့် ဗုဒ္ဓ ရဲ့ တရားတွေမှာ မတွေ့ရပါဘူး။ ဒါဟာ ဘယ်သူမှ မသိတဲ့ ဗုဒ္ဓ ရဲ့ လျှို့ဝှက်ချက်ပါပဲ လို့ သိဒ္ဓတ္ထက ဆိုပါတယ်။

ဒီနေရာမှာတော့ သိဒ္ဓတ္ထ ရဲ့ အမြင်ဟာ ၂၀ရာစု အိန္ဒိယဒဿနပညာရှင်သူတော်စင်ကြီး ဂျစ်ဒူကရိသျှဏမူရ်တိ ရဲ့ သစ္စာတရားဆီသို့ သွားရာ လမ်း မရှိ= Truth is a Pathless Land ဆိုတဲ့ အယူအဆ ရဲ့ ရှေ့ပြေးလို့ ပြောနိုင်ပါလိမ့်မယ်။ ဂျစ်ဒူကရိသျှဏမူရ်တိ ရဲ့ အမြင်ကိုပြောရရင် လူသားဟာ ဘယ်အဖွဲ့အစည်း ဘယ်အိုင်ဒီယိုလိုဂျီ ဘယ်လမ်းစဉ် ဘယ်အယူဝါကိုမှ အားကိုးပြီး သစ္စာတရား ဆီ ကို သွားလို့ မရနိုင်ဘူးလို့ ဆိုတယ်။

သစ္စာတရား ရဲ့ အနှစ်သာရသဘောက လွတ်လပ်တယ်။ ကျယ်ပြန့်တယ်။ အချိန်နေရာအားလုံးနဲ့ဆိုင်တယ်။ လူသားအားလုံးနဲ့ ဆိုင်တယ်။ အယူဝါဒတွေအိုင်ဒီယိုလိုဂျီတွေ သင်ကြားချက်တွေ ရဲ့

သဘောကတော့ အတိုင်း အတာရှိတယ်။ ကန့်သတ်ခံသဘောတွေဖြစ်တယ်။ အချိန်တစ်ခု နေရာတစ်ခု အတွက်ပဲ မူတည်ထားတယ်။ အဲဒီအယူဝါဒ ကို လက်ခံသူတွေ အတွက်ပဲ မှန်ကန်နေတယ်။ ဒါကြောင့် သစ္စာတရား ဆိုတဲ့ အနန္တသဘောဆောင်နေတဲ့ လွတ်လပ်တဲ့ သဘာဝ တစ်ခု ကို နှောင်ဖွဲ့ခံနေရတဲ့ လမ်းစဉ်တွေ အယူဝါဒတွေ အားဖြင့် ဘယ်လို မှ မရောက်နိုင်ဘူးလို့ ဂျစ်ဒူကရိသျှဏမူရ်တိ က ဆိုခဲ့တာပါ။

သိဒ္ဓတ္ထ က ဗုဒ္ဓ ကိုေဝဖန်ထိုးနှက်တဲ့ ပွိုင့် ကလည်း အဲဒီပွိုင့်ပါပဲ။ ဗုဒ္ဓ ဟာ တရားဒေသနာတွေ ဟောကြားခြင်းအား ဖြင့် သူ့ရဲ့ ဉာဏ်အလင်းရောင်ကို သူ့တပည့်တွေရရှိအောင် မျှေဝနေတယ်ဆိုရင်တော့ ဒါဟာ မဖြစ်နိုင်တဲ့ အလုပ်ကို ဗုဒ္ဓ က လုပ်နေတာပါပဲ= ဗုဒ္ဓ ဟာ ရေပေါ်မှာ အရုပ်ရေးနေတာပါပဲ လို့ သိဒ္ဓတ္ထ က ဆိုခဲ့တာ ဖြစ်ပါတယ်။

ဆက်ရန်ကျန်ပါသေးသည်။

## About Author : Lynn Htet Swe "ဓ"

Works at Researcher/Translator/Author

Studied Philosophy at University of Yangon

Studied at Yangon Economic University

Went to BEHS (5) Botataung, Yangon, Myanmar

From Yangon

Followed by 4,244 people

